M-088
12/8

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်)စာကြမ်းရေးရန်

215
18/8/14

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၂ ရက်

အကြောင်းအရာ။ **Myeik Public Corporation Limited မှ တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြ ခြင်းကိစ္စ**

MC 18
13/8

၁။ မြန်မာကုမ္ပဏီဖြစ်သော Myeik Public Corporation Limited သည် တနင်္သာရီ-တုံခါ- သဲဖြူ- မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်း အဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုတင်ပြခြင်းကို ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myeik Public Corporation Limited အား တနင်္သာရီ-တုံခါ- သဲဖြူ- မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းဆောင်ရွက်ရန် သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ** (စာချော) တို့တွင် **ဥက္ကဋ္ဌ** မှ လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

၃။ အတွင်းရေးမှူး ပြည်တွင်းခရီးသွားနေပါသဖြင့် တွဲဖက်အတွင်းရေးမှူးမှ လက်မှတ်ရေးထိုးတင်ပြရခြင်းဖြစ်ပါသည်။

(မြသူဇာ)
တွဲဖက်အတွင်းရေးမှူး

**ဥက္ကဋ္ဌ**

၄။

2018.

Myeik Public Permit Ns







# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ ၉၉၂ / ၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးစိုးဝင်း

(ခ) **အဘ အမည်** ဦးစိန်ကြည်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ်** ၆/မအရ(နိုင်) ဝ၃၇၈ဝ၆

(ဃ) **နေရပ်လိပ်စာ** အမှတ်-၃၊ စကားဝါလမ်း၊ မြစ်ငယ်ရပ်၊မြိတ်မြို့၊ တနင်္သာရီတိုင်းဒေသကြီး။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Myeik Public Corporation Limited (မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** တနင်္သာရီ- တုံခါ -သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၂၇၇၁၆.၄၀ သန်း (အမေရိကန်ဒေါ်လာ ၁၀.၃၈ သန်း အပါအဝင် စုစုပေါင်း ကျပ်နှစ်သောင်း ခုနစ်ထောင် ခုနစ်ရာ တစ်ဆယ့်ခြောက်သန်းနှင့် လေးသိန်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၅၄ /၂၀၁၄(မနသ)

၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၉ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Myeik Public Corporation Limited ( မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက် ) မှ တနင်္သာရီ- တုံခါ- သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုတင်ပြလာခြင်းအား ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၂၀၁၄) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Myeik Public Corporation Limited ( မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက် ) အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၉၉၂/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်း လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသော အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်)သည် တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်းစည်းကမ်းများ အတိုင်းလိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်) တို့ တနင်္သာရီ- တုံခါ- သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့တင်ပြရမည်။

၈။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်)သည် တနင်္သာရီ- တုံခါ- သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ်(၄၀)ဖြစ်သည်။ သက်တမ်းကို ရေတွက်ရာတွင် လုပ်ငန်းများကို အပြီးဆောင်ရွက် ပြီးစီးသည့်နေ့ရက် (သို့မဟုတ်) လုပ်ငန်းပြီးစီးကြောင်းလက်မှတ်ရေးထိုးပေးသည့် ရက်နေ့ ထိုနှစ်ရပ်အနက် စောရာနေ့ရက်ကာလမှ စတင်သတ်မှတ်သည်။

၉။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်) သည် ကောက်ခံရရှိသည့် လမ်းအသုံးပြုခမှ "ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့" အောက်ပါအတိုင်း ပေးသွင်းရမည်-

| | |
|---|---|
| (၁) ပထမ(၅)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) (၆)နှစ်မြောက်မှ (၁၅)နှစ်မြောက်အထိ(၁၀)နှစ် | ၅% |
| (၃) (၁၆)နှစ်မြောက်မှ (၂၅)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% |
| (၄) (၂၆)နှစ်မြောက်မှ (၃၅)နှစ်မြောက်အထိ(၁၀)နှစ် | ၁၅% |
| (၅) (၃၆)နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ(၅)နှစ် | ၂၀% |

(၆) ၄၀နှစ်ကျော် ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်းပေးသွင်းရန်ဖြစ်သည်။

၁၀။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်)သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလနှစ်(၄၀)သို့မဟုတ် လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့် ကာလများပြီးဆုံးပါက အဆိုပါလမ်းနှင့် ဂိတ်များကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသောကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည်။

၁၁။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေးပြေလည်စေရန် အလေးထား

ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၂။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်း လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၃။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၆။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၇။ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်းလီမိတက်) သည် အဆိုပြုလမ်းပိုင်းတရားဝင် ဖွင့်လှစ်သည့်နေ့ရက် (စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ရက်) ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က)/မ-၁၄၂၃/၂၀၁၄( ၁၀၃-က )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဩဂုတ် လ ၁၉ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ ၊ Myeik Public Corporation Limited (မြိတ်အများပိုင် ကော်ပိုရေးရှင်း လီမိတက်)

# Myeik Public Corporation Limited. မှ တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့်အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myeik Public Corporation Limited. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိုးဝင်း(အဘ-ဦးစိန်ကြည်) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ | - တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉မိုင်၊ ၃ ဖာလုံ |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | - **ကျပ် ၂၇၇၁၆.၄၀ သန်း ( US$ ၁၀.၃၈ သန်းအပါအဝင်)**<br>ကျပ် ၁၇၅၈၄.၆၀ သန်း<br>ကျပ် ၄၁၇၄.၀၈ သန်း (US$ ၄.၃၅ သန်း)<br>ကျပ် ၅၉၅၇.၇၂ သန်း (US$ ၆.၀၃ သန်းအပါအဝင်) |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦးနှစ်(၄၀)နှင့်နောက်ထပ်(၅)နှစ် (၃)ကြိမ် |
| ၈။ | တည်ဆောက်ရေးကာလ | - (၃)နှစ် |
| ၉။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခရငွေ | <br><br>- ကျပ် ၁၇၉.၄၄ သန်း<br>- ကျပ် ၉၄.၂၉ သန်း |
| ၁၀။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - (၂၆၆)ဦး |
| ၁၁။ | အခြားတင်ပြချက် | - ဌာနနှင့် ကုမ္ပဏီတို့ ချုပ်ဆိုထားသည့် BOT လုပ်ငန်း သဘောတူ စာချုပ်(မူကြမ်း)နှင့် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တင်ပြထားပါသည်။<br>- စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-<br>(က)လမ်းဖောက်လုပ်သည့်လုပ်ငန်းကာလ(တည်ဆောက်ရေးကာလ)မှာ(၃)နှစ်ဖြစ်ပါသည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၉ ဂ(၁) ]<br>(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး၊ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ်သက်တမ်းတိုးမြှင့်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ တင်ပြနိုင်သည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ယ ] |

| | | |
|---|---|---|
| | | (ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁) ရာခိုင်နှုန်းနှင့်ညီမျှသော ငွေကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင် စည်းကမ်းချက်များမပါရှိဘဲ ပြန်လည်ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသူထံ ပေးအပ် ရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၆ ]<br><br>(ဃ)တံတားအသုံးပြုခများကို ကောက်ခံရာတွင် ပေ (၁၈၀) အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ငန်းလုပ်ကိုင်ခွင့် ရသူတို့၏ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့် ကောက်ခံရမည်ဖြစ်သည်။ [စာချုပ် (မူကြမ်း) အပိုဒ်- ၈ ခ(၁) ]<br><br>(င) စတင်ကောက်ခံသည့် ပထမ(၅)နှစ် ကာလအတွက် လမ်း အသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့် ပြုသည်။ ကျန်ကာလအတွက် အောက်ပါ သတ်မှတ် ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၅-ပ ]<br><br>(၁) ပထမ(၅)နှစ်အတွက် — ကင်းလွတ်ခွင့် ကာလ<br>(၂) (၆)နှစ်မြောက်မှ(၁၅)နှစ်မြောက်အထိ (၁၀)နှစ် — ၅%<br>(၃) (၁၆)နှစ်မြောက်မှ(၂၅)နှစ်မြောက်အထိ (၁၀)နှစ် — ၁၀%<br>(၄) (၂၆)နှစ်မြောက်မှ(၃၅)နှစ်မြောက်အထိ (၁၀)နှစ် — ၁၅%<br>(၅) (၃၆)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၅)နှစ် — ၂၀%<br>(၆) ၄၀ နှစ်ကျော်ကာလအတွက် အချိန်တိုးမြှင့်ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော် မှ သတ်မှတ် ပေးသည့် ရာခိုင်နှုန်း အတိုင်း ပေးသွင်းရန် ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | (စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ စာဖြင့်ရေးသားထားသောခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ်တစ်ဒေသကို ထပ်ဆင့် ငှားရမ်းခြင်းမပြုရ။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ထ ]<br>(ဆ)လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ၏စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း၊ တံတား အသုံးပြုခကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့်နှုန်းထားများကိုပြောင်းလဲခြင်းမပြုရ။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ဓ ]<br>(ဇ)လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါ လုပ်ငန်း လုပ်ကိုင်ခွင့်ကာလ ကုန်ဆုံးပါက အဆိုပါ လမ်း၊ တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ကောင်းမွန်သော အနေအထားအတိုင်း လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသူထံ အဖိုးစားနားမဲ့လွှဲပြောင်းပေး ရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၂၀ ] |

| | |
|---|---|
| ကုမ္ပဏီအမည် | - Myeik Public Corporation Limited. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း |
| တည်နေရာ | - တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၇၇၁၆.၄၀ သန်း ( US$ ၁၀.၃၈ သန်းအပါအဝင်) |
| လုပ်ငန်းသက်တမ်း | - နှစ်(၄၀) |
| အရင်းကြေကာလ | - ၂၆ နှစ်နှင့် ၁ လ |
| IRR | - ၃.၅၀ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၀၄ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၀၀ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၇၀၄.၈၀ | |
| ၄ | လမ်းတံတားဖြတ်သန်းခရငွေ | ၆.၃၈ | ၇၂၂.၀၅ |
| ၅ | ဝင်ငွေခွန် | ၈၄၈.၇၅ | ၁၄၇၃.၁၇ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၇၂.၅၃ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၀.၅၈ |
| ၈ | CSR (၁%) | | ၄၄.၈၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၂၆၆ ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | **ကျပ် ၁၅၆၁.၉၇ သန်း** | **ကျပ် ၂၃၁၄.၁၃ သန်း** |
| | Cost : Benefit | ၁ : ၂ | |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ဖက်(စ်)-၀၁-၆၅၇၈၉၂
☎ - ၀၁-၆၅၇၈၂၅

စာအမှတ်၊ ရက-၆(က)/မ- ၁၄၂၃ / ၂၀၁၄(၀၃၄-က)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇူလိုင်လ ၂၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myeik Public Corporation Limited. မှ တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Myeik Public Corporation Limited. မှ တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။ ယင်းအဆိုပြုချက်အား ၂၀၁၄ ခုနှစ် ဇွန်လ ၅ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၃/၂၀၁၄ အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့်ကုမ္ပဏီတို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့်အညီ ချုပ်ဆိုမည့် BOT ပဋိညာဉ်စာချုပ် (မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ(တည်ဆောက်ရေးကာလ)မှာ (၃)နှစ်ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၉-ဂ(၁)]

(ခ) လုပ်ငန်းသက်တမ်းကာလမှာနှစ်(၄၀)ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ် လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလကို ရေတွက်ရာတွင် ခွင့်ပြုသတ်မှတ်ထားသည့် လုပ်ငန်း ကာလ(၃)နှစ် အထိ စီမံကိန်း လုပ်ငန်းပါ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အပြီး ဆောင်ရွက်ပြီးစီးသည့် နေ့ (သို့မဟုတ်) လုပ်ငန်း သက်တမ်းကာလ (၃)နှစ်ထက် စော၍ ပြီးစီးပြီး လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးသည့် နေ့ရက်၊ ထိုနှစ်ရပ်အနက်စောရာ နေ့ရက်ကာလမှစတင် သတ်မှတ်မည်ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၂၃-(ခ/ဂ)]

(ဂ)

| | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁ | သုံးဘီးဆိုင်ကယ် | ၅ |
| ၂ | ထော်လာဂျီ(ဒိန်းဒေါင်း)၊ ဆလွန်း၊ဗင်၊ (၂)တန်အောက် | ၅ |

ကန့်သတ်

| | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၃ | Farm Truck(၂ လုံးထိုး)၊ Double Cab၊ Pajero ၊ Parado ၊ Micro Bus၊ Super Custom ၊ ခရီးသည်ယာဉ်(လတ်) | ၁၅ |
| ၄ | ဟိုင်းလတ်၊ လိုက်ထရပ်(သေး) | ၂၀ |
| ၅ | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ်(လတ်)(၄ ဘီး) | ၂၀ |
| ၆ | Farm Truck(၄ လုံးထိုး)၊ | ၃၀ |
| ၇ | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ်(ကိုယ်ထည် အလျား= ၁၅ ပေ အောက်)၆ ဘီးကား Mini Bus ခရီးသည် (၂၄)ဦး၊ ဟီးနိုး (သေး)(၂၅)ဦး | ၃၀ |
| ၈ | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ်(ကိုယ်ထည် အလျား= ၁၅ ပေ အထက်) (၆) ဘီး | ၇၅ |
| ၉ | BM ခရီးသည်တင်ယာဉ်(လတ်)ခရီးသည်(၂၆ မှ ၃၅ ) ဦးထိ | ၃၀ |
| ၁၀ | ဟီးနိုး၊ ကာကို၊ နီဆန်း၊ ကွန်တို(၆)ဘီးကား၊ (ကုန်တင် ယာဉ်) | ၁၀၀ |
| ၁၁ | TE 11 ၊ TE 21 ၊ GMC၊ Fuso ၊ UD ကောင်တာ (၆)ဘီးကား(ကုန်တင်ယာဉ်) | ၁၀၀ |
| ၁၂ | ဟီးနိုး၊ ဟွန်ဒိုင်း၊ ဒေဝူး၊ ခရီးသည်တင်ယာဉ်(ကြီး) (ခရီးသည် ၃၆ မှ ၄၅) ဦးထိ | ၅၀ |
| ၁၃ | ခရီးသည်တင် မှန်လုံယာဉ်ကြီး (ခရီးသည် ၄၆ ဦး နှင့် အထက်) | ၅၅ |
| ၁၄ | (၆)ဘီးကား၊ဝင်ရိုး(၂)ခုပါကုန်တင်ယာဉ်ကြီး | ၁၀၀ |
| ၁၅ | (၈)ဘီးကား၊ဝင်ရိုး(၃)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၁၅ |
| ၁၆ | (၁၀)ဘီးကား၊ ဝင်ရိုး(၃)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၂၅ |
| ၁၇ | (၁၂)ဘီးကား၊ ဝင်ရိုး(၄)ခုပါ ကုန်တင်ယာဉ်ကြီး | ၁၅၀ |
| ၁၈ | (၁၄)ဘီးကား၊ ဝင်ရိုး(၅)ခု (Lift Axle)ပါ ကုန်တင်ယာဉ် ကြီး (ဘီးအားလုံးလမ်းပေါ်ချ၍ မောင်းနှင်ရမည်) | ၁၇၅ |
| ၁၉ | (၁၄)ဘီးတွဲကား၊ ဝင်ရိုး(၄)ခုပါ၊ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၂၀၀ |
| ၂၀ | (၁၈)ဘီးတွဲကား၊ ဝင်ရိုး(၅)ခုပါ ၊ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၃၀၀ |

| | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၂၁ | (၂၂)ဘီးတွဲကား၊ ဝင်ရိုး(၆)ခုပါ၊ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ) | ၃၅၀ |
| ၂၂ | အမှတ်စဉ်(၁၀)မှ (၂၁)အတွင်း ပါရှိသော ကုန်တင်ယာဉ်များသာ ကုန်မပါအလွတ်ဖြစ်ပါက | ၁၀၀ |

(ဃ) ခွင့်ပြုထားသော လမ်းအပိုင်းပေါ်ရှိ တံတားများအသုံးပြုခကို ကောက်ခံရာတွင် ပေ (၁၈၀) နှင့်အထက်ရှည်သည့် တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သောတံတားများအတွက် ဌာနနှင့် ကုမ္ပဏီတို့၏ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့်သာ ကောက်ခံမည်ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၈-ခ (၁) ]

(င) စတင်ကောက်ခံသည့်ပထမ(၅)နှစ်ကာလအတွက် လမ်းအသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလအတွက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။ [စာချုပ်အပိုဒ် ၅-ပ ]

| | | |
|---|---|---|
| (၁) | ပထမ(၅)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၆)နှစ်မြောက်မှ(၁၅)နှစ် မြောက်အထိ (၁၀)နှစ် | ၅% |
| (၃) | (၁၆)နှစ်မြောက်မှ(၂၅)နှစ် မြောက်အထိ (၁၀)နှစ် | ၁၀% |
| (၄) | (၂၆)နှစ်မြောက်မှ(၃၅)နှစ် မြောက်အထိ (၁၀)နှစ် | ၁၅% |
| (၅) | (၃၆)နှစ်မြောက်မှ(၄၀)နှစ် မြောက်အထိ (၅)နှစ် | ၂၀% |
| (၆) | ၄၀ နှစ်ကျော်ကာလအတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော် မှ သတ်မှတ် ပေးသည့် ရာခိုင်နှုန်း အတိုင်း ပေးသွင်းရန် ဖြစ်ပါသည်။ | |

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင်စည်းကမ်း ချက်များမပါရှိဘဲ ပြန်လည်ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသူထံ ပေးအပ်ရမည်။ ကုမ္ပဏီသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက်(၃၀) အတွင်း လုပ်ငန်း စတင်ရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ သတ်မှတ် ကာလ

အတွင်း လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရန်အပါအဝင် စာချုပ်ပါ စည်းကမ်းချက် များကို လိုက်နာရန် အပါအဝင် စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူရမည် ဖြစ်ပါသည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း (၃၀)အတွင်း ကုမ္ပဏီသို့ ပြန်လည် ထုတ်ပေးရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၆ ]

(ဆ) ကုမ္ပဏီသည် လုပ်ငန်းလုပ်ကိုင်ခွင့် ပြုသူ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ် တစ်ဒေသကို ထပ်ဆင့် ငှားရမ်းခြင်းမပြုရ။ [စာချုပ် (မူကြမ်း) အပိုဒ်- ၅ ထ ]

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ(ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ(ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ဖြစ်သည်။ [စာချုပ် (မူကြမ်း) အပိုဒ်- ၉ -ခ ]

(ဈ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့် ကာနှစ်(၄၀)(သို့မဟုတ်) လုပ်ငန်းဆက်လက် လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်သောကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့်တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်း ပေးရမည်ဖြစ်ပါသည်။ [စာချုပ် (မူကြမ်း) အပိုဒ်- ၂၀ ]

၃။ လုပ်ငန်းအဆိုပြုချက်ကို (နောက်ဆက်တွဲ-က)ဖြင့် ဖော်ပြထားထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၁၀.၃၈)သန်း အပါအဝင် ကျပ်(၂၇၇၁၆.၄၀)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက်လိုအပ်သော စက်ပစ္စည်းများ အမေရိကန်ဒေါ်လာ(၄.၃၅)သန်းဖိုးနှင့် လုပ်ငန်းသုံးပစ္စည်းများ အမေရိကန်ဒေါ်လာ(၆.၀၃)သန်းဖိုးကို ပြည်ပမှဝယ်ယူမည် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်သန်း |
|---|---|---|
| (က) | ငွေသား | ၁၇၅၈၄.၆၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၄၁၇၄.၀၈ (US$ ၄.၃၅ သန်း) |
| (ဂ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၅၉၅၇.၇၂ (US$ ၆.၀၃ သန်း) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၂၇၇၁၆.၄၀ (US$ ၁၀.၃၈သန်း အပါအဝင်)** |

၄။ အဆိုပြုလုပ်ငန်းတွင် ပြည်တွင်းမှလုပ်သား(၂၆၆)ဦးခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ တစ်လလျှင် ကျပ် ၉၅၀၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေ | ၁၈၈၅.၇၆ |
| (ခ) အသုံးစရိတ် | ၁၃၄၇.၄၄ |
| (ဂ) အသားတင်အမြတ် | ၅၃၈.၃၂ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆)နှစ်မြောက်တွင် နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ်သန်း |
|---|---|
| (က) ဝင်ငွေခွန် | ၁၇၉.၄၄ |
| (ခ) လမ်းဖြတ်သန်းခရငွေ | ၉၄.၂၉ |

၇။ လုပ်ငန်း၏အရင်းကြေကာလမှာ (၂၆)နှစ်နှင့်(၁)လဖြစ်ပြီး အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၃.၅၀% ဖြစ်ပါသည်။

၈။ ကျပ်ငွေအထောက်အထားအဖြစ် ကမ္ဘောဇ အမည်ဖြင့် မြဝတီဘဏ်ရှိ(၃၀-၄-၂၀၁၄) နေ့ ငွေလက်ကျန် ကျပ်(၂.၀၄)သန်း၊ (၁၆-၅-၂၀၁၄)နေ့ငွေလက်ကျန် ကျပ်(၆.၁၄)သန်း၊ (၆-၅-၂၀၁၄) နေ့ငွေလက်ကျန် ကျပ်(၅၂၃.၇၃)သန်း၊ ကမ္ဘောဇဘဏ်ရှိ (၆-၅-၂၀၁၄)နေ့ငွေလက်ကျန် ကျပ်(၈.၁၀) သန်း (၃၁-၃-၂၀၁၄)နေ့ ငွေလက်ကျန် ကျပ်(၁၃.၃၈)သန်း စုစုပေါင်းကျပ်(၅၅၃.၃၉)သန်း တင်ပြထားပါသည်။

၉။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၀ (က၊ ဂ ၊ စ ၊ ဆ ၊ ဇ၊ ည )အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားလာပါက ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ သို့ဖြစ်ပါ၍ Myeik Public Corporation Limited. မှ တနင်္သာရီ-တုံခါ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ရုံးအမှတ်(၃၂)၊ နေပြည်တော်

အဆိုပြုချက်စိစစ်ရေးအဖွဲ့

ဖက်(စ်)၊ ၀၆၇-၄၀၆၁၀၆၁

☎-၀၆၇-၄၀၆၁၃၉၊ ၄၀၆၃၆၂


စာအမှတ်၊ရက-၆(က)/မ-၁၄၂၃/၂၀၁၄(၅၉၈၃ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇွန်လ ၁၂ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး

ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **Myeik Public Corporation Ltd. မှ ဆောင်ရွက်လျက်ရှိသော တနင်္သာရီ-သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ-တုံခါ-သဲဖြူလမ်းပိုင်း ၃၃ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ( ၁၅ -၅- ၂၀၁၄ ) ရက်စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၄(ကုမ္ပဏီ) (စီ ၅၁၃၄)

၁။ Myeik Public Corporation Ltd. မှ ဆောင်ရွက်လျက်ရှိသော တနင်္သာရီ- သဲဖြူ- မောတောင်လမ်းပိုင်း ၆၉ မိုင် နှင့် တနင်္သာရီ- တုံခါ- သဲဖြူလမ်းပိုင်း ၃၃ မိုင်၊ ၃ ဖာလုံအား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်စိုးလွင် (အဘ-ဦးကြည်လွင်)မှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက်အား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၃/၂၀၁၄ ( ၅- ၆- ၂၀၁၄ ) အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်-

(က) အဆိုပြုချက်တင်ပြထားခြင်းကို ပြန်လည်ရုပ်သိမ်းရန်၊

(ခ) တနင်္သာရီ- သဲဖြူ- မောတောင်လမ်း အပိုင်းမှ ၃၃ မိုင် ပြန်လည် အပ်နှံမည်ဆိုပါက စာချုပ်မူကြမ်းနှင့် တွက်ချက်မှုများ ပြင်ဆင်ပြီး ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် ပြန်လည် တင်ပြရန်၊

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အစည်းအဝေးဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

Myeik Public- PAT REPLY

မိတ္တူကို

ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

အုပ်ချုပ်မှုဒါရိုက်တာ

Myeik Public Corporation Ltd.

ရုံးလက်ခံ/မျှောစာတွဲ

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# အဆိုပြုချက် စိစစ်ရေးအဖွဲ့

၂၀၁၄ ခုနှစ်၊ ဇွန်လ (၅)ရက်နေ့ နံနက်(၉း၀၀)နာရီတွင် ရုံးအမှတ်(၃၂)၊ အမျိုးသား စီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန၊ အစည်းအဝေးခန်းမ၌ ကျင်းပသည့် (၂၃/၂၀၁၄) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

**အစည်းအဝေးတက်ရောက်သူများ/ ကိုယ်စားတက်ရောက်သူများ**

ဒေါက်တာကျော်ဆန်း
ညွှန်ကြားရေးမှူး
စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဦးမြတ်ထွန်းကျော်
ညွှန်ကြားရေးမှူး
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးမြင့်နိုင်
ဒုတိယရုံးအဖွဲ့မှူး
ဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဒေါ်သင်းသင်းစိုး
ဒုတိယညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဒေါ်သီတာခိုင်
လက်ထောက်ညွှန်ကြားရေးမှူး
လျှပ်စစ်စွမ်းအားဦးစီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးကျော်အောင်ဝင်း
လက်ထောက်ညွှန်ကြားရေးမှူး
ရေအားလျှပ်စစ်စီမံရေးဦးစီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးစောထွန်းဦး
လက်ထောက်ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဒေါ်ချိုချိုဇင်
လက်ထောက်ညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးမင်းမော်
လက်ထောက်ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

ဒေါ်မူမူဆွေ
ဦးစီးအရာရှိ
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
အလုပ်သမား၊အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

**အထူးဖိတ်ကြားခြင်းဖြင့် တက်ရောက်သူများ**

ဒေါ်မြသူဇာ
တွဲဖက်အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဦးအောင်ဇံထွေး
ဒုတိယညွှန်ကြားရေးမှူးချုပ်
မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန
မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေး ဝန်ကြီးဌာန

ဦးအုန်းလွင်
အင်ဂျင်နီယာချုပ်(လမ်း)
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးကျော်ဦး
ဒုတိယညွှန်ကြားရေးမှူး
ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ဦးမျိုးသန်း
လက်ထောက်အထွေထွေမန်နေဂျာ
မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန

**အစည်းအဝေးမတက်ရောက်နိုင်သူများ (တာဝန်)**

ဦးအောင်နိုင်ဦး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဒေါ်ချိုချိုဝင်း
ဒုတိယ ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

**ရည်ရွယ်ချက်**

၁။ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်များအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးသို့ မတင်ပြမီ လိုအပ်ချက်များ ပြည့်စုံစေရေးနှင့် သတ်မှတ်ချက်များနှင့် ကိုက်ညီမှု ရှိ-မရှိ စစ်ဆေးရေး အဆိုပြုသူ/ကိုယ်စားလှယ်တို့နှင့် တိုက်ရိုက် ညှိနှိုင်းဆွေးနွေးရန်။

**ဆွေးနွေးချက်များ**

**နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဆိုင်ရာ လုပ်ငန်းများ**

**၂။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Yangon Richang Apparel Co., Ltd. မှ CMP စနစ်ဖြင့် အထည် ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်နီနီအေး မှ အမှာစာကို ရှင်းလင်းတင်ပြပါသည်။

ကုမ္ပဏီ၏ Managing Director Mr. Wang Rui မှ လုပ်ငန်းနှင့်ပတ်သက်၍ ရှင်းလင်းပြောကြားရာတွင် မိမိတို့၏စက်ရုံသည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြစ်ကြောင်း၊ မိမိတို့၏စက်ရုံ မှာ CMP စနစ်ဖြင့် အထည် ချုပ်လုပ်ခြင်းလုပ်ငန်း ဖြစ်ပါကြောင်း၊ မိမိတို့စက်ရုံ တွင် ပြည်တွင်း လုပ်သား (၅၅၇) ဦး နှင့် ပြည်ပလုပ်သား (၅)ဦးကိုခန့်ထားမည် ဖြစ်ပါကြောင်း အသေးစိတ် ရှင်းလင်း ပြောကြားသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာမှ Mold ကိုမည်သည့်နေရာတွင် အသုံးပြုမည်ကို သိလိုပါကြောင်း၊ စက်ပစ္စည်းအသုံးပြုမှုနှင့် ကုန်ကြမ်း အသုံးပြုမှုအတွက်

စက်မှုကြီးကြပ်ရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရန်လိုကြောင်း၊ စက်ပစ္စည်းအမျိုးအစားများကို သေချာစွာဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ Managing Director Mr. Wang Rui မှ Mold ကို ကြယ်သီးရိုက်သည့်နေရာများတွင်အသုံးပြု ကြောင်းရှင်းလင်းပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်မှ Annex-D တွင် တင်သွင်းမည့်ပစ္စည်းများတွင် other ဟုဖော်ပြထားသည့်အတွက် မည်သည့်ပစ္စည်းများ တင်သွင်းမည်ကို သိလိုပါကြောင်း၊ မီးဘေး ကြိုတင်ကာကွယ်ရေးအတွက် ကြိုတင် ဆောင်ရွက်ထားမှု၊ စက်ရုံပတ်ဝန်းကျင်တွင် ဆောင်ရွက်နေသည့် လုပ်ငန်းများ၊ အလုပ်သမား သက်သာချောင်ချိရေး ၊ လုပ်ငန်းအတွေ့အကြုံ၊ တင်ပို့မည့် နိုင်ငံတို့ကို သိလိုပါကြောင်း၊ ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများကို တည်ဆောက်ရေး ကာလအတွင်း တင်သွင်းလျှင် အခွန်ကင်းလွတ်ခွင့် ရရှိပါကြောင်း၊ စက်များကို တည်ဆောက်ရေး ကာလအတွင်း တင်သွင်းလျှင် အခွန်ကင်းလွတ်ခွင့် ရရှိမည် ဖြစ်ကြောင်းနှင့် မည်သည့်အတွက်ကြောင့် ပြည်တွင်းမှ ဝယ်ယူသည်ကို သိလိုပါကြောင်း မေးမြန်းပါသည်။

ကုမ္ပဏီ၏ Managing Director Mr. Wang Rui မှ other ဟုဖော်ပြထားသည်မှာ Accessories ပစ္စည်းများကိုတင်သွင်းမည်ကို ဆိုလိုပါကြောင်း၊ မီးဘေးကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများနှင့် အလိုအလျောက် ရေးဖျန်းသည့်စနစ်များ ထားရှိပါကြောင်း၊ စက်ရုံဘေးပတ်ဝန်းကျင်တွင် စက်ရုံတစ်ရုံသာရှိပါကြောင်းနှင့် စက်ရုံသည်လည်ပတ်ခြင်း မရှိပါကြောင်း၊ မိမိအနေဖြင့် အထည်ချုပ်လုပ်ငန်း အတွေ့အကြုံ နှစ် ၂၀ ကျော်ရှိပြီ ဖြစ်ပါကြောင်း၊ ပစ္စည်းများကို ဥရောပနှင့် ဂျပန်နိုင်ငံများသို့တင်ပို့ မည်ဖြစ်ပါ ကြောင်း စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူရခြင်းမှာ ပြည်ပမှတင်သွင်းလျှင် လုပ်ငန်း လည်ပတ်ချိန် ကြာမြင့်မှာစိုး၍ဖြစ်ကြောင်းရှင်းလင်းတင်ပြပါသည်။

လျှပ်စစ်စွမ်းအားဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်သီတာခိုင်မှ လက်ရှိမြေကွက်တွင် Transformer ရှိ-မရှိ သိလိုကြောင်း ၊ မရှိသေးပါက လှိုင်သာယာမြို့နယ် လျှပ်စစ်ရုံးသို့လျှောက် ထားရမည်ဖြစ်ကြောင်းဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးစောထွန်းဦးမှ တင်သွင်းလာမည့် စက်ပစ္စည်းများ စာရင်းကိုတိတိကျကျ ဖော်ပြရန်လိုကြောင်း၊ ဘဏ္ဍာရေးဝန်ကြီးဌာနမှ ထုတ်ပြန်သည့် ၁၄၀/၉၄ အမိန့်ကြော်ငြာစာအတိုင်း လိုက်နာ ဆောင်ရွက်ရန်လိုကြောင်းဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်ချိုချိုဇင်မှ မြေငှားရမ်းခများရှိလျှင် ငှားရမ်းခများအတွက် တံဆိပ်ခေါင်းခွန်ပေး ဆောင်ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

အလုပ်သမားညွှန်ကြားမှုဦးစီးဌာန ဦးစီးအရာရှိ ဒေါ်မူမူဆွေက ဝန်ထမ်းခန့်ထားရေးအတွက် မည်သို့စီစဉ် ဆောင်ရွက်မည်ကို သိလိုပါကြောင်း၊ ဝန်ထမ်းခန့်ထားရေးအတွက် လှိုင်သာယာမြို့နယ်ရှိ အလုပ်သမားရုံးနှင့် ဆက်သွယ်ဆောင်ရွက်ရမည်ဖြစ်ကြောင်းဆွေးနွေးပြောကြားပါသည်။

ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဦးမြတ်ထွန်းကျော် မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဖြစ်သောကြောင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် ရရှိပြီး လျှင် CMP လုပ်ငန်းများ စီမံခန့်ခွဲရေးကော်မတီနှင့် ဆက်သွယ်ဆောင်ရွက် ရမည် ဖြစ်ကြောင်း၊ Annex-G မှ Mod ဆိုသည့်အသုံးအနှုန်းကို သိလိုပါကြောင်း ဆွေးနွေးပြောကြားရာ ကုမ္ပဏီ၏ တာဝန်ရှိသူ Mr. Wang Rui မှ စားလုံးပေါင်းမှားခြင်းသာဖြစ်ပါကြောင်း Mold ဟုရေးသားထားခြင်းဖြစ်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ဒုတိယရုံးအဖွဲ့မှူး ဦးမြင့်နိုင်မှ မြေ ၁.၇၅၀ ဧကမှ ၀.၈၁၉၆ ဧကကို ပိုင်း၍ ငှားရမ်းသည့်အတွက် ဥပဒေအရ မှန်ကန်မှုရှိရန် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ နှင့် ဆက်သွယ်ပြီး မြေပိုင်ရှင်မှ တရားဝင် ပိုင်းပေးလျှင် ပို၍ကောင်းမွန်ကြောင်း ဆွေးနွေး ပြောကြား ပါသည်။

စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာန၊ ဒုတိယ ညွှန်ကြားရေးမှူး ဒေါ်သင်းသင်းစိုးမှ တင်သွင်းမည့်ပစ္စည်းများတွင် ဘွိုင်လာ ပါဝင်ခြင်းရှိ-မရှိသိလိုပါကြောင်း၊ ဘွိုင်လာများကို မည်သို့ တင်သွင်းမည်ကို သိလိုပါကြောင်း Jacket နှင့် Pants တွင် အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများ တူနေပါကြောင်း ဆွေးနွေး ပြောကြားပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူ Mr. Wang Rui မှ ဘွိုင်လာကို ပြည်ပမှသာ တင်သွင်းမည်ဖြစ်ပါ ကြောင်း ရှင်းလင်းပြောကြားပါသည်။

ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးမင်းဇော်မှ အဆိုပြု လုပ်ငန်း နှင့် ပတ်သက်၍ ပတ်ဝန်းကျင် စီမံခန့်ခွဲခြင်း စီမံချက် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် လိုအပ်ပါကြောင်း ဆွေးနွေးပါသည်။

အစည်းအဝေးမှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Yangon Richang Apparel Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ကြပါသည်-

(က) ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (EMP) ဆောင်ရွက်ရန်၊

(ခ) စက်ပစ္စည်းစာရင်းနှင့် ပစ္စည်းအမည်များကိုမှန်ကန်စွာဖော်ပြရန်၊

(ဂ) သဘောထားများစုံလင်ပြီး တွက်ချက်မှုများ ပြင်ဆင်ပြီးပါက ကော်မရှင် အစည်းအဝေး သို့ တင်ပြရန်။

၇။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KDDI Summit Global Myanmar Company Limited တည်ထောင်၍ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းနှင့် Joint Operation Agreement (JOA) လက်မှတ်ရေးထိုးကာ ဆက်သွယ်ရေးဝန်ဆောင်မှု လုပ်ငန်းများ နှင့် ယင်းနှင့် ဆက်စပ်လုပ်ငန်းများ (Telecommunications Services and Related Activities) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဒေါ်နီနီအေးမှ အမှာစာကို ဖတ်ကြားတင်ပြပါသည်။

ကုမ္ပဏီ၏တာဝန်ရှိသူ Mr. Shu Ishizawa မှ ယခုအဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ KDDI Summit Global Myanmar Company Limited ကို ဂျပန်နိုင်ငံအခြေစိုက် KDDI CORPORATION နှင့် Sumitomo Corporation တို့မှ ပူးပေါင်း၍ မြန်မာနိုင်ငံတွင် တည်ထောင်မည်ဖြစ်ကြောင်း၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း နှင့် Joint Operation Agreement (JOA) လက်မှတ်ရေးထိုးကာ ဆက်သွယ်ရေးဝန်ဆောင်မှု လုပ်ငန်းများ နှင့် ယင်းနှင့် ဆက်စပ်လုပ်ငန်းများ (Telecommunications Services and Related Activities)ကို လုပ်ဆောင်မည် ဖြစ်ကြောင်း ၊ အဆိုပြုလုပ်ငန်း၏ အဓိကရည်ရွယ်ချက်မှာ ဆက်သွယ်ရေးဆိုင်ရာ အခြေခံ အဆောက်အအုံများကို ထိန်းသိမ်းစီမံပေးရန်၊ တည်ဆောက်မြှင့်တင်ဖွံ့ဖြိုးတိုးတက်စေရန်၊ အငှားချထားရန်၊ သတင်းအချက်အလက်နည်းပညာများကို ထောက်ပံ့ပေးရန်၊ ဈေးကွက်ရှာဖွေပေးရန်၊ အမှတ်တံဆိပ် မြှင့်တင်ပေးရန်၊ ဆက်သွယ်ရေးဆိုင်ရာ ပစ္စည်းများအား ဝယ်ယူထောက်ပံ့ ပေးရန်၊ Logistic service ပြုလုပ်ပေးရန်၊ ဆက်သွယ်ရေးဆိုင်ရာ ဝန်ဆောင်မှုများ၊ ဆက်သွယ်ရေးဆိုင်ရာပစ္စည်းများအား ဖြန့်ဖြူး ဆောင်ရွက်ပေးရန်၊ MPT Telecoms Operations နှင့် အသုံးပြုရန်အတွက် လက်ကိုင်ဖုန်း၊ ကိရိယာ အသုံးအဆောင် ပစ္စည်းများနှင့် အခြားအရန် ပစ္စည်းများအား တင်သွင်း ဖြန့်ဖြူးရောင်းချရန်၊ မိုဘိုင်း၊ တယ်လီဖုန်း၊ အင်တာနက်ဝန်ဆောင်မှုလုပ်ငန်းများ လုပ်ဆောင်ရန်၊ လုပ်ငန်းရှင်များကြုံတွေ့နိုင်သော ဆက်သွယ်ရေး ဝန်ဆောင်မှုဆိုင်ရာ အခက်အခဲများကို ဖြေရှင်း ဆောင်ရွက်ပေးရန်၊ ထပ်ဆောင်း ဝန်ဆောင်မှုပေးရန်၊ ဆက်သွယ်ရေးဆိုင်ရာ အဆောက်အအုံများအား ဖွံ့ဖြိုးတိုးတက်စေရန် မျှဝေ ဆောင်ရွက်ပေးရန်၊ International Gateway Services များပေးရန်၊ လက်ကားပေးရန်၊ Call Center လုပ်ငန်းများ ဆောင်ရွက်ရန်၊ MPT Telecoms Operations အတွက် ဝန်ထမ်းများအား လေ့ကျင့်သင်တန်းပို့ချပေးရန်၊ MPT Telecoms Operations နှင့် ပတ်သက်သော အခြား စီးပွားရေး လုပ်ငန်းများအား ဆောင်ရွက်ရန် ဖြစ်ပါကြောင်း၊ ယခုလုပ်ငန်းသည် Telenor , Ooredoo တို့၏ လုပ်ငန်းသဘောသဘာဝနှင့် တူညီပါကြောင်း ဆွေးနွေး ပြောကြားပါသည်။

မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း၊ လက်ထောက်အထွေထွေမန်နေဂျာ ဦးမျိုးသန်းမှ ယခု လုပ်ငန်း၏ သဘောသဘာဝကို ရှင်းပြလိုကြောင်း၊ ယခုလုပ်ငန်းကို မြန်မာ့ဆက်သွယ်ရေး လုပ်ငန်းနှင့်

Joint Operation Agreement (JOA) ရေးထိုးကာ ဆက်သွယ်ရေးဝန်ဆောင်မှု လုပ်ငန်းများနှင့် ယင်းနှင့် ဆက်စပ်လုပ်ငန်းများ ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ JOA သက်တမ်းမှာ (၁၀)နှစ်ဖြစ်ကြောင်း၊ ၄င်းသက်တမ်းကုန်ဆုံးပြီးနောက် ကုမ္ပဏီအနေဖြင့် C - licence သာကျန်ရှိမည် ဖြစ်ကြောင်း၊ ဆက်လက်လုပ်ကိုင်လိုပါက မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းနှင့်ညှိနှိုင်းကာ သက်တမ်း တိုးမြှင့်နိုင်ကြောင်း၊ သို့မဟုတ် Corporation ပြုလုပ်၍ ဖက်စပ်လုပ်ငန်း ဆောင်ရွက်နိုင်ကြောင်း၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းမှ KDDI Summit Global Myanmar Company Limited သို့ Amortization ကို အကျေဆပ်ပြီးပါက KDDI Summit Global Myanmar Company Limited မှ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းသို့ လုပ်ငန်းပိုင်းဆိုင်ရာ ပစ္စည်းအားလုံးကို လွှဲပြောင်းပေးရမည် ဖြစ်ကြောင်း၊ JOA အရ ယခုလက်ရှိ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း၏ လက်ရှိ ဆက်သွယ်ရေးဆိုင်ရာ ဝန်ဆောင်မှုများ နှင့် ဆက်သွယ်ရေးဆိုင်ရာ ပစ္စည်းကိရိယာများကို ကုမ္ပဏီမှ အဆင့်မြှင့်တင်၍ ဝန်ဆောင်မှု ပေးသွားရမည်ဖြစ်ကြောင်း ပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာ မှ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံတစ်ဝှမ်းလုံး လုပ်ဆောင်သွားမည် ဟုတ်-မဟုတ် သိရှိလိုကြောင်း၊ တာဝါတိုင် မည်မျှတည်ဆောက်သွားမည်ကိုသိရှိလိုကြောင်း၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း၏ လက်ရှိ တာဝါတိုင် အရေအတွက် မည်မျှရှိသည်ကိုသိရှိလိုကြောင်း၊ တာဝါတိုင်တည်ဆောက်မည့် တည်နေရာပြမြေပုံ (Tower Sites Mapping) ကိုတင်ပြထားခြင်းမရှိ၍ တင်ပြပေးရန် လိုကြောင်း၊ Operation Licence Fees ၂ % ကို မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းသို့ ပေးရမည် ဟုတ်-မဟုတ်ကို သိရှိလိုကြောင်း၊ ဝန်ထမ်းခန့်ထားမှုကိုသိရှိလိုပါကြောင်း၊ Management Fees ကို မည်ကဲ့သို့ သတ်မှတ်ထားသည်ကိုသိရှိလိုကြောင်း၊ JOA လက်မှတ်ရေးထိုးရန် မည်သည့်အဆင့်သို့ ရောက်ရှိ နေသည်ကို သိရှိလိုကြောင်းမေးမြန်းရာ ကုမ္ပဏီ၏ တာဝန်ရှိသူ Mr. Shu Ishizawa မှ ယခု အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံတစ်ဝှမ်းလုံး လုပ်ဆောင်သွားမည်ဖြစ်ကြောင်း၊ တာဝါတိုင်အရေ အတွက် ၅၄၀၀ ခန့်တည်ဆောက်သွားမည်ဖြစ်ကြောင်း၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း၏ လက်ရှိ တာဝါတိုင် အရေအတွက်မှာ ၁၀၀၀ ကျော်ရှိကြောင်း၊ တာဝါတိုင်တည်ဆောက်မည့် တည်နေရာပြ မြေပုံ (Tower Sites Mapping) ကို ရေးဆွဲနေဆဲဖြစ်ပါ၍ ရေးဆွဲပြီးပါက တင်ပြပေးမည်ဖြစ်ကြောင်း၊ Operation Licence Fees ၂ % ကိုမြန်မာ့ဆက်သွယ်ရေးလုပ်ငန်းသို့ တိုက်ရိုက်ပေးဆောင်ရမည် ဖြစ်ကြောင်း၊ Management Fees ကို နှစ်အလိုက် ပုံသေ US$ ၃၀၀၀၀ သတ်မှတ်ထားကြောင်း၊ ဝန်ထမ်းခန့်ထားမှုတွင် လက်ရှိ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းရှိ ဝန်ထမ်းများကိုလည်း အသုံးပြု သွားမည်ဖြစ်ကြောင်း၊ ထို့အတွက် လုပ်ငန်း၏အမြတ်ငွေရာခိုင်နှုန်း အချိုးတစ်ခုကို ပေးဆောင်ရမည်ဖြစ်ကြောင်း၊ အလုပ် အကိုင်အခွင့်အလမ်းသစ်ကိုလည်း ဖန်တီးပေးမည် ဖြစ်ကြောင်း၊ JOA လက်မှတ်ရေးထိုးရန် နောက်ဆုံးအဆင့် ညှိနှိုင်းဆွေးနွေးမှုများ ပြုလုပ်နေပြီဖြစ်ကြောင်း၊ မကြာခင် လက်မှတ်ရေးထိုးနိုင်တော့မည်ဖြစ်ကြောင်း ပြန်လည်ဆွေးနွေးပြောကြားပါသည်။

စီမံကိန်းစစ်ဆေးရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါက်တာကျော်ဆန်း မှ JOA အရ Revenue Sharing ပုံစံကို သိရှိလိုကြောင်းမေးမြန်းရာ ကုမ္ပဏီ၏တာဝန်ရှိသူ Mr. Shu Ishizawa မှ Joint Operations လုပ်ငန်းထဲသို့ KDDI Sumitomo Corporation မှ CAPEX နှင့် Working Capital ကို ထည့်ဝင်မည်ဖြစ်ကြောင်း၊ လုပ်ငန်းလည်ပတ်၍ ရရှိလာသော စုစုပေါင်းဝင်ငွေမှ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းသို့ Minimum Revenue Guarantee ကို ပေးရမည်ဖြစ်ကြောင်း၊ စုစုပေါင်းဝင်ငွေမှ Operating Expenditures ကိုနုတ်ယူမည်ဖြစ်ကြောင်း၊ ထို့အပြင် Amortization ကို KDDI Sumitomo Corporation သို့ပေးရမည်ဖြစ်ကြောင်း၊ ထို့နောက်ကျန်ရှိသော ဝင်ငွေ (Revenue Surplus)ကို အချိုးတူခွဲဝေမည်ဖြစ်ကြောင်း ပြန်လည်ဖြေကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာ မှ CSR ထည့်ဝင်မှုရာခိုင်နှုန်းနှင့် ဆောင်ရွက်မည့်အစီအစဉ်ကို တင်ပြပေးရန် လိုအပ်ကြောင်း၊ တင်သွင်းမည့်ဆက်သွယ်ရေးလုပ်ငန်းသုံးပစ္စည်းများကို အသေးစိတ်ဖော်ပြပေးရန်နှင့် ၄င်းပစ္စည်း စာရင်းကို မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းနှင့်ညှိနှိုင်း၍ တင်ပြရန်လိုအပ်ကြောင်း၊ ပုဂ္ဂလိကပိုင်မြေကို ငှားရမ်း ၍ တာဝါတိုင် တည်ဆောက်မည်ဆိုပါက မြေငှားပုံစံ ( Model Text ) ကိုတင်ပြပေးရန် လိုအပ်ကြောင်း၊ အဆိုပြုလုပ်ငန်းသည် ဆက်သွယ်ရေး ဝန်ဆောင်မှုဆိုင်ရာ ပစ္စည်းများ တင်သွင်း ဖြန့်ဖြူးရောင်းချမည် ဖြစ်သဖြင့် ကုန်သွယ်လုပ်ငန်းခွန် ၅% ပေးဆောင်ရမည်ဖြစ်ကြောင်း၊ ငွေကြေး ဆိုင်ရာကိစ္စရပ်များကို မည်ကဲ့သို့ ဆောင်ရွက်မည်ကို သိရှိလိုကြောင်း မေးမြန်းရာ ကုမ္ပဏီ၏ တာဝန်ရှိသူမှ အခွန်ကိစ္စများနှင့် ပတ်သက်၍ ပြည်တွင်းအခွန်များဦးစီးဌာန နှင့် ဆွေးနွေးညှိနှိုင်းနေကြောင်း၊ ငွေကြေးကိစ္စရပ်များ ဆောင်ရွက်ရန်အတွက် မြန်မာ့စီးပွားရေးဘဏ်၊ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တို့နှင့် ဆွေးနွေးညှိနှိုင်းနေကြောင်း၊ ညှိနှိုင်းပြီးပါက ကော်မရှင်သို့ တင်ပြပေးမည် ဖြစ်ကြောင်း ပြန်လည်ပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးမင်းမော် မှ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) နှင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ရေးဆွဲ တင်ပြရန် လိုအပ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာ မှ အဆိုပြု လုပ်ငန်းနှင့်ပတ်သက်၍ သက်ဆိုင်ရာသို့ သဘောထားမှတ်ချက်များ တောင်းခံရန်နှင့် ယာယီခွင့်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာ ဝန်ကြီးဌာနမှ ထောက်ခံထားပြီး ဖြစ်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလမ်းညွှန်မှု ခံယူမည်ဖြစ်ကြောင်း ပြောကြားပါသည်။

အစည်းအဝေးမှ ရခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် KDDI Summit Global Myanmar Company Limited တည်ထောင်၍ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း နှင့် Joint Operation Agreement (JOA) လက်မှတ်ရေးထိုးကာ ဆက်သွယ်ရေးဝန်ဆောင်မှုလုပ်ငန်းများနှင့် ယင်းနှင့် ဆက်စပ်လုပ်ငန်းများ (Telecommunications Services and Related Activities) ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ကြပါသည်-

(က) တာဝါတိုင်တည်ဆောက်မည့် တည်နေရာပြမြေပုံ (Tower Sites Mapping) ကို တင်ပြရန်၊

(ခ) CSR ထည့်ဝင်မှုရာခိုင်နှုန်းနှင့် ဆောင်ရွက်မည့်အစီအစဉ်ကို တင်ပြရန်၊

(ဂ) တင်သွင်းမည့် ဆက်သွယ်ရေးလုပ်ငန်းသုံးပစ္စည်းများ ကို အသေးစိတ် ဖော်ပြပေးရန်နှင့် ၎င်းပစ္စည်း စာရင်းကို မြန်မာ့ဆက်သွယ်ရေးလုပ်ငန်းနှင့်ညှိနှိုင်း၍ တင်ပြရန်၊

(ဃ) ပုဂ္ဂလိကပိုင်မြေကို ငှားရမ်း၍ တာဝါတိုင် တည်ဆောက်မည်ဆိုပါက မြေငှားပုံစံ ( Model Text ) ကိုတင်ပြရန်၊

(င) ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan-EMP) နှင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကိုရေးဆွဲ တင်ပြရန်၊

(စ) သဘောထားမှတ်ချက်များ တောင်းခံရန်နှင့် ယာယီခွင့်ပြုမိန့် ထုတ်ပေးနိုင်ရေး အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလမ်းညွှန်မှု ခံယူရန်။

**၄။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. တည်ထောင်၍ ကြက်သားပေါက် ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

Sunjin Myanmar Co.,Ltd. ၏ Promoter Mr. BYUNG HA Lee မှ ယခုအဆိုပြု လုပ်ငန်းသည် ကြက်သားပေါက် ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် လုပ်ကိုင်မည်ဖြစ်ကြောင်း၊ ယခင်တိရစ္ဆာန်အစာအစာနှင့် ဆက်စပ်ပစ္စည်း ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း (စက်ရုံ-၁)အား ရင်းနှီးမြှုပ်နှံမှု ပမာဏ အမေရိကန်ဒေါ်လာ ၇ သန်းဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်း ဆောင်ရွက်လျက်ရှိကြောင်း၊ ယခု ကြက်သား ပေါက် လုပ်ငန်း (စက်ရုံ-၂)အား ရင်းနှီးမြှုပ်နှံမှု ပမာဏငွေ အမေရိကန်ဒေါ်လာ ၃.၁၄၄ သန်းဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုကာလအား ကနဦး နှစ် (၅၀)နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ကြောင်း၊ နည်းပညာ အသုံးပြုမှုအား ကိုရီးယားနိုင်ငံ၏ နည်းပညာဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ကနဦးတွင် ပြည်တွင်း အလုပ်သမား ၉၆ ဦး ခန့်ထားမည်

ဖြစ်ကြောင်း လုပ်ငန်းနှင့် သက်ဆိုင်သည့် အဓိကအချက်အလက်များအား ရှင်းလင်းပြောကြားပါသည်။

စီမံကိန်းစိစစ်ရေး နှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါက်တာကျော်ဆန်း မှ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR)နှင့် အရင်းကြေကာလ ဖော်ပြချက်မှာ ကိုက်ညီမှုရှိပါကြောင်း နှင့် သဘောထားမှတ်ချက် ပြန်ကြားပေးမည်ဖြစ်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

လျှပ်စစ်စွမ်းအားဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်သီတာခိုင်မှ Transformer လျှောက်ထားခြင်းရှိ-မရှိကို သိရှိလိုကြောင်း နှင့် ပဲခူးတိုင်း အင်ဂျင်နီယာ အသင်း နှင့် ချိတ်ဆက်ဆောင်ရွက်ထားသင့်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန ညွှန်ကြားရေးမှူး ဦးမြတ်ထွန်းကျော် မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများအားလုံးကို ပြည်ပမှ တင်သွင်းရန် အစီအစဉ် ရှိ-မရှိ သိရှိလိုပါကြောင်းနှင့် တင်သွင်းမည့် စက်ပစ္စည်းစာရင်းအား စနစ်တကျ တင်ပြပေးသင့်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

စီမံကိန်း စိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါက်တာကျော်ဆန်းမှ ကြက်သားဖောက်လုပ်ရန်အတွက် ကုန်ကြမ်း ကြက်ဥအား မည်သို့ ရယူမည်ကို သိလိုကြောင်း၊ ကြက်ဥ ဖောက်ရန် အတွက် လိုအပ်သည့် ပစ္စည်းများအား ပြည်ပမှ တင်သွင်းခြင်းရှိ-မရှိ၊ ယခု ကြက်သားပေါက်မှ နောင်တွင် ဝက်သားပေါက် မွေးမြူခြင်း လုပ်ငန်း ဆောင်ရွက်လျှင် ခွင့်ပြုမိန့် အသစ် ထပ်မံလျှောက်ထားရမည် ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

Sunjin Myanmar Co.,Ltd. ၏ Promotor Mr. BYUNG HA Lee မှ Transformer အား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း၊ ပဲခူးတိုင်းအင်ဂျင်နီယာအသင်း နှင့်လည်း ချိတ်ဆက်ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်းအားလည်း စနစ်တကျ တင်ပြပေးမည်ဖြစ်ကြောင်း၊ ကုန်ကြမ်းကြက်ဥအား ပြည်တွင်းမှ ဝယ်ယူမည် ဖြစ်ပါကြောင်း နှင့် နောင်တွင် လုပ်ငန်းအသစ် ဆောင်ရွက်လိုပါက contract farming စနစ်ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ပါကြောင်း ရှင်းလင်းပြောကြားပါသည်။

မွေးမြူရေး၊ ရေလုပ်ငန်း နှင့် ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးဝန်ကြီးဌာန၊ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးအောင်ဇံထွေး မှ ယခင်တိရစ္ဆာန် အစားအစာနှင့် ဆက်စပ်ပစ္စည်းလုပ်ငန်း(စက်ရုံ-၁)သည် ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်း ဆောင်ရွက်လျက်ရှိကြောင်း၊ ယခု ကြက်သားပေါက် လုပ်ငန်း (စက်ရုံ-၂) အတွက် မိမိတို့ဌာနအနေဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါက ကန့်ကွက်ရန်မရှိပါကြောင်း၊ GMP စနစ်ကို လိုက်နာကျင့်သုံးရမည် ဖြစ်ကြောင်းနှင့် သဘောထားမှတ်ချက် ပြန်ကြားပေးမည်ဖြစ်ပါကြောင်း ဆွေးနွေးပြော ကြားပါသည်။

ကန့်သတ်

၁၁

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာ မှ ယခင် စက်ရုံ-၁ ၏ လုပ်ငန်းဆောင်ရွက်မှုအခြေအနေနှင့် စက်ပစ္စည်းများ တင်သွင်းပြီးစီးခြင်း ရှိ-မရှိ၊ ယခင်စက်ရုံ-၁ နှင့် ယခု စက်ရုံ-၂ တို့၏ အကွာအဝေး မည်မျှရှိသည်ကို သိလိုကြောင်း မေးမြန်းဆွေးနွေးပါသည်။

Sunjin Myanmar Co.,Ltd.၏ Promoter Mr. BYUNG HA Lee မှ စက်ရုံ-၁၏ လုပ်ငန်းဆောင်ရွက်မှုအခြေအနေသည် ၈၀ ရာခိုင်နှုန်းပြီးစီးမှုရှိပါကြောင်း၊ စက်ပစ္စည်းများအား ပြည်ပမှ တင်သွင်းပြီးစီး၍ တပ်ဆင်လျက်ရှိပါကြောင်း၊ စက်ရုံ-၂ သည် စက်ရုံ-၁ နှင့် မီတာ ၂၀၀ အကွာတွင် တည်ရှိပါကြောင်း ရှင်းလင်းပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်ချိုချိုဇင်မှ ချေးငွေအတွက်ပေး ချေရမည့် အတိုးနှုန်းအပေါ် withholding tax ပေးချေရမည် ဖြစ်ပါကြောင်း၊ မြေငှားစာချုပ် ချုပ်ဆိုရာတွင် ထမ်းဆောင်ရမည့် တံဆိပ်ခေါင်းခွန်အား သက်ဆိုင်ရာမြို့နယ်ရုံးနှင့် ဆက်သွယ်ဆောင်ရွက်ရမည် ဖြစ်ပါကြောင်း ရှင်းလင်းပြောကြားပါသည်။

အလုပ်သမားညွှန်ကြားမှုဦးစီးဌာန၊ ဦးစီးအရာရှိ ဒေါ်မူမူဆွေ မှ အလုပ်သမားခန့်ထားရေးတွက် သက်ဆိုင်ရာမြို့နယ်ရုံးတွင် အလုပ်သမားမှတ်ပုံတင်ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးမင်းမော်မှ ကြက်သားပေါက် စက်ရုံများအား ကာကွယ်ရန်အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များ ဆောင်ရွက်ထားရှိရမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် သန့်ရှင်း ကျန်းမာရေး အတွက် စီစဉ်ဆောင်ရွက်ထား မှုအစီအစဉ်ကို သိရှိလိုပါကြောင်း၊ ထုတ်လုပ်မှုသည် တစ်နေ့ တန် ၃၀၀၀ ကျော်လျှင် EIA ပြုလုပ်ရမည် ဖြစ်ကြောင်းနှင့် သဘောထားမှတ်ချက် ပြန်ကြားပေးမည်ဖြစ်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာမှ GMP စနစ်များနှင့် အညီ ဆောင်ရွက်သင့်ပါကြောင်း ရှင်းလင်းပြောကြားပါသည်။

ကုမ္ပဏီတာဝန်ရှိသူမှ ပဲခူးတိုင်းဒေသကြီးအစိုးရပိုင်မြေကို ငှားရမ်းဆောင်ရွက်မည် ဖြစ်၍ လျှပ်စစ်ရ ယူသုံးစွဲမှုကို ပဲခူးတိုင်းဒေသကြီးမှ စီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း၊ လျှပ်စစ်ခတ်အားခ တစ်ယူနစ်လျှင် US$ ၂.၅၀ ပေးရပါကြောင်း၊ ပတ်ဝန်းကျင်ကာကွယ်ရေး အစီအစဉ်များကိုလည်း Green Myanmar Services တွင် လုပ်ငန်းအပ်နှံပြီး ဖြစ်ပါကြောင်း၊ ချေးငွေကို မိခင်ကုမ္ပဏီထံ အတိုးနှုန်း ၄% ဖြင့် ချေးယူမည်ဖြစ်၍ ၅ နှစ် အတွင်း အကျေပေးဆပ်မည် ဖြစ်ပါကြောင်း၊ witholding tax ကို သတ်မှတ်ထားသည့် နှုန်းထားအတိုင်း ပေးချေမည် ဖြစ်ပါကြောင်း၊ မြေငှားစာချုပ်အပေါ် ထမ်းဆောင်ရမည့် အခွန်အား သက်ဆိုင်ရာ မြို့နယ်ရုံးတွင် ထမ်းဆောင် သွားမည် ဖြစ်ပါကြောင်း၊ ISO, HACCP များနှင့် အညီ အဆင့်အတန်းမီ ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းနှင့် ကိုရီးယားနိုင်ငံမှ ကျွမ်းကျင်ပညာရှင်များနှင့် အရည်အသွေး ပြည့်မီရန် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကန့်သတ်

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့် မှ ကြက်ဥ အားဝယ်ယူ၍ စက်များဖြင့် ကြက်သားပေါက် ထုတ်လုပ်မည်ဖြစ်၍ စက်ရုံ၏ Layout Plan, Master Plan များ တင်ပြဆောင်ရွက်ရန် လိုအပ်ပါကြောင်း ဆွေးနွေး ပြောကြားပါသည်။

အစည်းအဝေးမှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. တည်ထောင်၍ ကြက်သားပေါက် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြု ချက် နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ် ခဲ့ပါသည်-

(က) စက်ပစ္စည်းအသေးစိတ်အား ပြည်တွင်းဝယ်/ ပြည်ပဝယ် ခွဲခြားဖော်ပြ၍ စနစ်တကျ တင်ပြရန်၊

(ခ) စက်ရုံ၏ Layout Plan တင်ပြရန်၊

(ဂ) သဘောထားမှတ်ချက်များ စုံလင်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေး သို့ တင်ပြရန်။

**၅။ Myeik Public Corporation Ltd. မှ ဆောင်ရွက်လျက်ရှိသော တနင်္သာရီ-သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ-တုံခါ-သဲဖြူလမ်းပိုင်း (၃၃)မိုင်(၃)ဖာလုံ အား BOT စနစ်ဖြင့် လမ်း အဆင့်မြှင့်တင်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

Myeik Public Corporation Ltd. မှ ဒါရိုက်တာ ဦးသန်းလွင် မှ တနင်္သာရီ- သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ- တုံခါ- သဲဖြူလမ်းပိုင်း (၃၃)မိုင်(၃)ဖာလုံအား လမ်း အဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို BOT စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် လျှောက်ထားခြင်း ဖြစ်ကြောင်း တင်ပြပါသည်။

ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း မှ အင်ဂျင်နီယာချုပ် ဦးအုန်းလွင် မှ တနင်္သာရီ- သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ- တုံခါ- သဲဖြူလမ်းပိုင်း (၃၃)မိုင် (၃)ဖာလုံအား လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို BOT စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် Myeik Public Corporation Ltd. အား (၂၄-၁-၂၀၁၃)ရက်နေ့တွင် ခွင့်ပြုခဲ့ပါကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် (၁၅-၅-၂၀၁၄)ရက်နေ့တွင် အဆိုပြုလွှာတင်ပြခဲ့ပါကြောင်း၊ ကုမ္ပဏီမှ တနင်္သာရီ-သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင်အနက် ၃၃ မိုင်ကို ပြန်လည်အပ်နှံမည်ဟု ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ တင်ပြလာပါကြောင်း၊ ယင်းသို့ ပြန်အပ်ရခြင်း အကြောင်းအရင်းကို သိလိုပါကြောင်း၊ လမ်းပိုင်း ၃၃ မိုင် ပြန်လည် အပ်နှံခြင်းကို မူအားဖြင့် လက်ခံပါကြောင်း၊ အဆိုပါ လမ်းပိုင်းသည် တိုင်းဒေသကြီး အစိုးရအဖွဲ့၏ စီမံခန့်ခွဲမှုအောက်တွင် ရှိသဖြင့် တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ရန်ပုံငွေဖြင့် ဆောင်ရွက်နိုင်ခြင်း ရှိ-မရှိ (၂၀-၅-၂၀၁၄)ရက်နေ့တွင် သဘောထားတောင်းခံထားပါကြောင်း၊ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထားရရှိပြီး လမ်းပိုင်း ၃၃ မိုင်ပြန်လည်အပ်နှံမည်ဆိုပါက

မူလအဆိုပြုလွှာတွင် တွက်ချက်ထားသော တွက်ချက်မှုများကို ပြန်လည်ပြင်ဆင်ရမည်ဖြစ်ကြောင်းနှင့် အဆိုပြုလွှာကို ခေတ္တဆိုင်းငံ့ထား ရမည် ဖြစ်ကြောင်း ဆွေးနွေးပါသည်။

ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဒုတိယရုံးအဖွဲ့မှူး ဦးမြင့်နိုင်က ကုမ္ပဏီမှ တင်ပြသည့် တွက်ချက်မှုမှာ တနင်္သာရီ- သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ-တုံခါ- သဲဖြူလမ်းပိုင်း ၃၃ မိုင်၊ ၃ ဖာလုံ အတွက် တွက်ချက်ထားခြင်း ဖြစ်ကြောင်း၊ လမ်းပိုင်း ၆၉ မိုင် အနက် ၃၃ မိုင်ကို ပြန်အပ်မည်ဆိုပါက တွက်ချက်မှုများ ပြင်ဆင်တွက်ချက်ပြီးမှ ပြန်လည် တင်ပြသင့်ပါ ကြောင်း ဆွေးနွေးပါသည်။

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန၊ စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန မှ ညွှန်ကြားရေးမှူး ဒေါက်တာကျော်ဆန်းက လမ်းပိုင်း(၃၃)မိုင် ပြန်လည် အပ်နှံမည် ဆိုပါက တင်သွင်းမည့် စက်ပစ္စည်းနှင့်လုပ်ငန်းသုံးပစ္စည်းစာရင်း၊ ဝင်ငွေရရှိမှု၊ ကုန်ကျစရိတ်များ ပြောင်းလဲသွားမည် ဖြစ်၍ တွက်ချက်မှုများ ပြင်ဆင်တင်ပြရမည်ဖြစ်ကြောင်း ဆွေးနွေးပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက Myeik Public Corporation Ltd. မှ တနင်္သာရီ- သဲဖြူ- မောတောင်လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ- တုံခါ- သဲဖြူ လမ်းပိုင်း ၃၃ မိုင်၊ ၃ ဖာလုံအား BOT စနစ်ဖြင့် ဆောင်ရွက်ရန်အဆိုပြုတင်ပြလာခြင်းအား လမ်းပိုင်း ၃၃မိုင် ပြန်လည် အပ်နှံမည်ဆိုပါက စာချုပ်မူကြမ်းနှင့် တွက်ချက်မှုများပြင်ဆင်ပြီး ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် ပြန်လည်တင်ပြရန် ရှိပါသဖြင့် ယခုအဆိုပြုချက်ကို ပြန်လည်ရုပ်သိမ်းရမည် ဖြစ်ပါကြောင်း ဆွေးနွေးပါသည်။

အဖွဲ့ဝင်များနှင့် ဌာနဆိုင်ရာများမှ ဆွေးနွေး မေးမြန်းချက်များအပေါ် ကုမ္ပဏီမှ ဒါရိုက်တာ ဦးသန်းလွင်မှ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်လမ်းပိုင်း(၂)ပိုင်းတွင် တနင်္သာရီ- သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင်အနက် ၃၃ မိုင်မှာ တံတားများပြီး လမ်းပိုင်းအစအဆုံး ပြင်ဆင်ရမည်ဖြစ်၍ ကျန် ၃၆ မိုင်ကိုသာ ရွေးချယ် ဆောင်ရွက်လိုပါကြောင်း၊ ယခု လမ်းပိုင်းသည် မောတောင်နယ်စပ် ကုန်သွယ်ရေး စခန်းသွားလာမှု အဆင်ပြေ ချောမွေ့စေရန် ဆောင်ရွက်ခြင်းဖြစ်ကြောင်း၊ ဆောက်လုပ်ရေး ဝန်ကြီးဌာန နှင့် ညှိနှိုင်းပြီးမှ ပြန်လည် ပြင်ဆင်တင်ပြမည်ဖြစ်ပါကြောင်း ရှင်းလင်း တင်ပြပါသည်။

အစည်းအဝေးမှ Myeik Public Corporation Ltd. မှ ဆောင်ရွက်လျက်ရှိသော တနင်္သာရီ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ- တုံခါ- သဲဖြူလမ်းပိုင်း (၃၃)မိုင် (၃)ဖာလုံအား BOT စနစ်ဖြင့် လမ်း အဆင့်မြှင့်တင်၍ လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ကြပါသည်-

(က) အဆိုပြုချက် တင်ပြထားခြင်းကို ပြန်လည် ရုပ်သိမ်းရန်၊

(ခ) တနင်္သာရီ - သဲဖြူ - မောတောင်လမ်း အပိုင်း မှ ၃၃ မိုင် ပြန်လည် အပ်နှံမည်ဆိုပါက စာချုပ်မူကြမ်းနှင့် တွက်ချက်မှုများပြင်ဆင်ပြီး ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် ပြန်လည်တင်ပြရန်။

| **ဆုံးဖြတ်ချက်များ** | **ဆောင်ရွက်ရန်** |
|---|---|
| ၆။ အစည်းအဝေးမှ အောက်ပါတို့ကို ဆုံးဖြတ်ပါသည်- | |
| (က) ရခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Yangon Richang Apparel Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-<br>(၁) ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(EMP) ဆောင်ရွက်ရန်၊<br>(၂) စက်ပစ္စည်းစာရင်းနှင့်ပစ္စည်းအမည်များကို မှန်ကန်စွာ ဖော်ပြရန်၊<br>(၃) သဘောထားများ စုံလင်ပြီး တွက်ချက်မှုများ ပြင်ဆင်ပြီး ပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးရုံးအဖွဲ့<br>Myanmar Yangon Richang Apparel Co., Ltd. |
| (ခ) အစည်းအဝေးမှ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် KDDI Summit Global Myanmar Company Limited. တည်ထောင်၍ မြန်မာ့ဆက်သွယ် ရေးလုပ်ငန်းနှင့် Joint Operation Agreement (JOA) လက်မှတ်ရေး ထိုးကာ ဆက်သွယ်ရေး ဝန်ဆောင်မှု လုပ်ငန်းများ နှင့် ယင်းနှင့် ဆက်စပ်လုပ်ငန်းများ (Telecommunications Services and Related Activities) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါ အတိုင်း ဆုံးဖြတ်ပါသည်-<br>(၁) တာဝါတိုင် တည်ဆောက်မည့် တည်နေရာပြမြေပုံ (Tower Sites Mapping) ကို တင်ပြရန်၊<br>(၂) CSR ထည့်ဝင်မှုရာခိုင်နှုန်းနှင့် ဆောင်ရွက်မည့် အစီအစဉ်ကို တင်ပြရန်၊<br>(၃) တင်သွင်းမည့် ဆက်သွယ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို အသေးစိတ် ဖော်ပြပေးရန်နှင့် ၄င်းပစ္စည်း စာရင်းကို မြန်မာ့ဆက်သွယ်ရေး လုပ်ငန်းနှင့်ညှိနှိုင်း၍ တင်ပြရန်၊ | အဆိုပြုချက် စိစစ်ရေးရုံးအဖွဲ့<br>KDDI Summit Global Myanmar Company Limited. |

(၄) ပုဂ္ဂလိကပိုင် မြေကို ငှားရမ်း၍ တာဝါတိုင် တည်ဆောက် မည်ဆိုပါက မြေငှား ပုံစံ( Model Text ) ကို တင်ပြရန်၊

(၅) ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan) နှင့် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment -EIA) ကိုရေးဆွဲ တင်ပြရန်၊

(၆) သဘောထားမှတ်ချက်များ တောင်းခံရန် နှင့် ယာယီခွင့်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြလမ်း ညွှန်မှုခံယူရန်။

(ဂ) ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. တည်ထောင်၍ ကြက်သားပေါက် ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်အဆိုပြုချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

ရုံးအဖွဲ့အဆိုပြုချက် စိစစ်ရေးရုံးအဖွဲ့ Sunjin Myanmar Co.,Ltd.

(၁) စက်ပစ္စည်း အသေးစိတ်အား ပြည်တွင်းဝယ်/ ပြည်ပဝယ် ခွဲခြား ဖော်ပြ၍ စနစ်တကျ တင်ပြရန်၊

(၂) စက်ရုံ၏ Layout Plan တင်ပြရန်၊

(၃)သဘောထားမှတ်ချက်များ စုံလင်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။

(ဃ) Myeik Public Corporation Ltd. မှ ဆောင်ရွက်လျက်ရှိသော တနင်္သာရီ- သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင် နှင့် တနင်္သာရီ-တုံခါ-သဲဖြူလမ်းပိုင်း ၃၃ မိုင်၊ ၃ ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့် မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

အဆိုပြုချက် စိစစ်ရေးရုံးအဖွဲ့ Myeik Public Corporation Ltd.

(က) အဆိုပြုချက် တင်ပြထားခြင်းကို ပြန်လည် ရုပ်သိမ်းရန်၊

(ခ) တနင်္သာရီ-သဲဖြူ-မောတောင်လမ်းအပိုင်းမှ ၃၃မိုင်

| ပြန်လည် အပ်နှံမည်ဆိုပါက စာချုပ်မူကြမ်း နှင့် တွက်ချက်မှုများ ပြင်ဆင်ပြီး ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် ပြန်လည်တင်ပြရန်။ |
|---|

၇။ အစည်းအဝေးကို မွန်းလွဲ(၁၂:၀၀) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

ညွှန်ကြားရေးမှူး(ကိုယ်စား)
(နီနီအေး၊ ဒုတိယညွှန်ကြားရေးမှူး)

စာအမှတ်၊ ရက-၁ / မ-၀၀၂ / ၂၀၁၄ ( ၅၇၉၀ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇွန် လ ၉ ရက်

**ဖြန့်ဝေခြင်း**

အစည်းအဝေးတက်ရောက်သူများအားလုံး

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရကဖ-၆(က)/မ-၁၄၂၃/၂၀၁၄(၅၅၇၈ - ၁)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မေလ ၂၉ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Myeik Public Corporation Ltd. မှ ဆောင်ရွက်လျက်ရှိသော တနင်္သာရီ- သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ- တုံခါ- သဲဖြူလမ်းပိုင်း (၃၃)မိုင်(၃)ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်း အသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Myeik Public Corporation Ltd. မှ တနင်္သာရီ-သဲဖြူ-မောတောင်လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ-တုံခါ-သဲဖြူလမ်းပိုင်း (၃၃)မိုင်(၃)ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုတင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Myeik Public Corporation Ltd. မှ တနင်္သာရီ-သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ- တုံခါ- သဲဖြူလမ်းပိုင်း (၃၃)မိုင် (၃)ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ကြိုတင်စိစစ်ပေးပါရန် တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေး နိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

Myeik Public Corporation Ltd. မှ ဆောင်ရွက်လျက်ရှိသော တနင်္သာရီ-သဲဖြူ-မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ-တုံခါ-သဲဖြူလမ်းပိုင်း (၃၃)မိုင်(၃)ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းနှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myeik Public Corporation Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိုးဝင်း (အဘ-ဦးစိန်ကြည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - တနင်္သာရီ- သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင် နှင့် တနင်္သာရီ- တုံခါ- သဲဖြူလမ်းပိုင်း (၃၃)မိုင်(၃)ဖာလုံ အား BOT စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - တနင်္သာရီ- သဲဖြူ- မောတောင် လမ်းပိုင်း ၆၉ မိုင်နှင့် တနင်္သာရီ- တုံခါ- သဲဖြူလမ်းပိုင်း (၃၃)မိုင် (၃)ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | - **ကျပ် ၄၂၁၁၈.၇၇ သန်း ( US$ ၁၃.၃၂ သန်း အပါအဝင်)**<br>ကျပ် ၂၉၆၅၃.၀၀ သန်း<br>ကျပ် ၅၁၈၃.၇၂ သန်း (US$ ၅.၂၅ သန်း)<br>ကျပ် ၈၁၈၂.၀၅ သန်း (US$ ၈.၀၇ သန်း) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - နှစ် (၄၀) |
| ၇။ | လမ်းတံတားအသုံးပြုခကောက်ခံမည့် ဂိတ်တည်နေရာ | - ဖော်ပြထားခြင်းမရှိပါ |
| ၈။ | ဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၃၆၄၃.၉၀ သန်း |
| ၉။ | အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၁၁၇၉.၆၄ သန်း |
| ၁၀။ | ဝန်ထမ်းအင်အား (ပြည်တွင်း) | - (၂၃၉)ဦး |
| ၁၁။ | အရင်းကြေကာလ | - ၂၄ နှစ် နှင့် ၇ လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ် နှုန်း(IRR) | - ၃ % |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခရငွေ | <br><br>- ကျပ် ၃၉၃.၂၀ သန်း<br>- ကျပ် ၁၈၂.၂၀ သန်း |
| ၁၄။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် မြဝတီဘဏ်ရှိ(၃၁-၁၂-၂၀၁၃)နေ့ရှိ ငွေလက်ကျန် ကျပ် (၂.၀၄) သန်း နှင့် ကျပ်(၃၇၁.၄၁)သန်း၊ ကမ္ဘောဇဘဏ်ရှိ (၃၁-၁၂-၂၀၁၃)နေ့ရှိ ငွေလက်ကျန် ကျပ်(၅.၇၁)သန်း၊ (၂၁-၁-၂၀၁၄)ရက်နေ့ငွေလက်ကျန်ကျပ်(၆၄၉.၆၅)သန်း စုစုပေါင်းကျပ်(၁၀၂၈.၈၁)သန်း တင်ပြထားပါသည်။<br>- နိုင်ငံခြားငွေအထောက်အထားတင်ပြထားခြင်းမရှိပါ။ |

| | | |
|---|---|---|
| ၁၅။ | အခြားတင်ပြချက် | - ဌာနနှင့် ကုမ္ပဏီတို့ချုပ်ဆိုထားသည့် BOT လုပ်ငန်း သဘောတူ စာချုပ်(မူကြမ်း)နှင့် ပြည်ထောင်စု ရှေ့နေချုပ်ရုံး ၏ သဘောထားမှတ်ချက်တင်ပြထားပါသည်။<br>- စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(က)လမ်းဖောက်လုပ်သည့်လုပ်ငန်းကာလ(တည်ဆောက်ရေးကာလ)မှာ(၃)နှစ်ဖြစ်ပါသည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၉ ဂ(၁) ]<br>(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး၊ တစ်ကြိမ်လျှင်(၅)နှစ်စီဖြင့် (၃)ကြိမ်သက်တမ်းတိုးမြှင့်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ တင်ပြနိုင်သည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ဃ ]<br>(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁) ရာခိုင်နှုန်းနှင့်ညီမျှသော ငွေကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအတွင်းရှိ တရားဝင် ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင် စည်းကမ်းချက်များမပါရှိဘဲ ပြန်လည်ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူထံ ပေးအပ်ရမည်။[စာချုပ်(မူကြမ်း) အပိုဒ်- ၆ ]<br>(ဃ)တံတားအသုံးပြုခများကို ကောက်ခံရာတွင် ပေ (၁၈၀) အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ငန်းလုပ်ကိုင်ခွင့် ရသူတို့၏ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့် ကောက်ခံရမည်ဖြစ်သည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၈ ခ(၁) ]<br>(င)လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ စာဖြင့်ရေးသားထားသော ခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ်တစ်ဒေသကို ထပ်ဆင့် ငှားရမ်းခြင်းမပြုရ။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ထ ]<br>(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ၏စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း၊ တံတား အသုံးပြုခကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့်နှုန်းထားများကိုပြောင်းလဲခြင်းမပြုရ။ [စာချုပ်(မူကြမ်း) အပိုဒ်- ၅ ဓ ] |

| | | |
|---|---|---|
| | | (ဆ)လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ပါ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလ ကုန်ဆုံးပါက အဆိုပါ လမ်း၊ တံတားများ၊ ဂိတ်များ နှင့် အဆောက်အဦများကို ကောင်းမွန်သော အနေအထား အတိုင်း လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူထံ အဖိုးစားနားမဲ့လွှဲပြောင်းပေးရမည်။ [စာချုပ်(မူကြမ်း) အပိုဒ်- ၂၀ ] |
| ၁၆။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | - ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် နှင့် အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) တို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။<br>- ယာဉ် အမျိုးအစား အလိုက် ကောက်ခံမည့် နှုန်းထားများအား တင်ပြထား ပါသည်။<br>- လမ်း အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ ဖော်ပြပေးပါရန်၊<br>- မနသ-၈(က) ရင်းနှီးမြှုပ်နှံမှု ပုံစံအား ပြန်လည် စိစစ်ပေးပါရန်၊<br>နိုင်ငံခြားငွေအထောက်အထားတင်ပြရန် လိုအပ်ပါသည်။<br>- တစ်နှစ် ဝင်ငွေ ကျပ် ၂၀ သိန်း အထက်ရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြရန်၊<br>- Cash Flow တွက်ချက်မှုတွင် Year11ရှိတွက်ချက်မှုအား ပြန်လည်စိစစ်ပေးပါရန်၊<br>- ဝန်ထမ်းလစာအား အသေးစိတ်တွက်ချက်ဖော်ပြပါရန်၊<br>- ဌာနနှင့် ကုမ္ပဏီတို့ချုပ်ဆိုမည့် BOT လုပ်ငန်း သဘောတူစာချုပ်(မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး ၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြရန်၊ |



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၄(ကုမ္ပဏီ)(စီ ၈၅၁၄)
ရက် စွဲ၊ ၂၀၁၄ ခုနှစ် ဇူလိုင်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျှက်ရှိသော တနင်္သာရီ - တုံခါ - သဲဖြူ - မောတောင်လမ်းပိုင်း (၆၉/၃) မိုင် အတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာ တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများကို B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများအနက် မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်မှ ဆောင်ရွက်လျှက်ရှိသည့် တနင်္သာရီ-တုံခါ-သဲဖြူ- မောတောင် လမ်းပိုင်း (၆၉/၃) မိုင်၏ အဆိုပြုလွှာနှင့် ပဋိညာဉ်စာချုပ်ပါ လိုအပ်ချက်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်မှုနှင့်အညီ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စိစစ်အတည်ပြုချက် ရယူ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်း ပြုစုပြီး ပေးပို့လာခဲ့ပါသည် ။

၂။ သို့ဖြစ်ပါ၍ စာပိုဒ် (၁) တွင် ဖော်ပြထားသော တနင်္သာရီ - တုံခါ- သဲဖြူ - မောတောင် လမ်းပိုင်း (၆၉/၃)မိုင်၏ အဆိုပြုလွှာကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီး ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ ဆက်လက်တင်ပြပေးနိုင်ပါရန် မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်၏ အဆိုပြုလွှာ (၁) စုံ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား (၁)စောင် တို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည် ။

၂၂/၇/၂၀၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့် ၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာချုပ်(လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

D:\Khwe 2 2014[C2]\...

## ကုမ္ပဏီမှ တင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေကာလ(နှစ်) | (၁)ရက်လျှင် သွားသည့် ယာဉ်စီးရေ | (၁)နှစ် ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | တနင်္သာရီ- တုံခါ-သဲဖြူ- မောတောင် လမ်းပိုင်း | မြိတ်အများပိုင်ကော်ပိုရေးရှင်း လီမိတက် | ၃.၅ | (၂၆) နှစ် (၁) လ | ၁၀၀၅ | - | ၂၃၃၁၆.၃၉၉ |

E(1)A

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

## မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
## MYEIK PUBLIC CORPORATION LIMITED

မှ

တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း (၆၉/၃) မိုင်အား
အဆင့်မြှင့်တင်ခြင်းလုပ်ငန်း

တို့ကို

**Build Operate and Transfer (BOT) စနစ်ဖြင့်**

ဆောင်ရွက်ရန်

အဆိုပြုတင်ပြချက်






ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၄(ကုမ္ပဏီ)(စီ ၈၅၁၄)
ရက် စွဲ၊ ၂၀၁၄ ခုနှစ် ဇူလိုင်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြို့တော်အများပိုင်ကော်ပိုရေးရှင်းလီမိတက် မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျှက်ရှိသော တနင်္သာရီ - တုံခါ - သံဖြူ - မောတောင်လမ်းပိုင်း (၆၉/၃) မိုင် အတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာ တင်ပြခြင်း

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများကို B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများအနက် မြို့တော်အများပိုင်ကော်ပိုရေးရှင်းလီမိတက်မှ ဆောင်ရွက်လျှက်ရှိသည့် တနင်္သာရီ-တုံခါ-သံဖြူ- မောတောင် လမ်းပိုင်း (၆၉/၃) မိုင်၏ အဆိုပြုလွှာနှင့် ပဋိညာဉ်စာချုပ်ပါ လိုအပ်ချက်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်မှုနှင့်အညီ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စိစစ်အတည်ပြုချက် ရယူ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်း ပြုစုပြီး ပေးပို့လာခဲ့ပါသည် ။

၂။ သို့ဖြစ်ပါ၍ စာပိုဒ် (၁) တွင် ဖော်ပြထားသော တနင်္သာရီ - တုံခါ- သံဖြူ - မောတောင် လမ်းပိုင်း (၆၉/၃)မိုင်၏ အဆိုပြုလွှာကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ ဆက်လက်တင်ပြပေးနိုင်ပါရန် မြို့တော်အများပိုင်ကော်ပိုရေးရှင်းလီမိတက်၏ အဆိုပြုလွှာ (၁) စုံ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား (၁)စောင် တို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည် ။

၂၂/၇/၂၀၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့် ၊ ဒုတိယဝန်ကြီး

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာချုပ်(လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

## ကုမ္ပဏီမှ တင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေကာလ (နှစ်) | (၁)ရက်လျှင်သွားသည့်ယာဉ်စီးရေ | (၁)နှစ်ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | တနသ်ာရီ- တုံခါ-သဲဖြူ- မောတောင်လမ်းပိုင်း | မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် | ၃.၅ | (၂၆) နှစ် (၁) လ | ၁၀၁၅ | - | ၂၇၇၁၆.၃၉၉ |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၂၆၈၀ /၈၃၁/ဂ-၃၁/အဖရ(တနင်္သာရီ)
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၅ ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ B.O.Tစနစ်ဖြင့် ဆောင်ရွက်လျက်ရှိသည့် လမ်းပိုင်းအား ပြန်လည်အပ်နှံခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏(၂၀.၅.၂၀၁၄)ရက်စွဲပါစာအမှတ်၊ ၁/ ဇွဲ-၂ /ထွေ /၂၀၁၄ (ကုမ္ပဏီ) (စီ ၅၅၅၆)

မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျက်ရှိသော လမ်းများအနက် တနင်္သာရီ- ရေဖြူ-တုံခါ- သဲဖြူ- မေသဘောင်လမ်းအပိုင်းအား နယ်စပ်ကုန်သွယ်ရေးအတွက် အချိန်တိုလျင်မြန်စွာပြီးစီးနိုင်ရေး အဓိကထား ဆောင်ရွက်လျက်ရှိပြီး ယခုအချိန်တွင် ကျောက်ချောလမ်းအဆင့် ဖောက်လုပ်ပြီးစီးပြီဖြစ်သည့်အပြင် ၂၀၁၅-၂၀၁၆ ဘဏ္ဍာရေးနှစ်တွင် ကတ္တရာလမ်းအဆင့် အပြီးဖောက်လုပ်သွားမည်ဖြစ်ပါသဖြင့် တနင်္သာရီ- ညောင်ပင်ကွင်း- သဲဖြူ လမ်းအပိုင်းအား ပြန်လည်အပ်နှံခွင့်ပြုပါရန် တင်ပြလာမှုနှင့်ပတ်သက်၍ လက်ခံနိုင်ရေးအတွက် သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာမှုအပေါ် အဆိုပါ တနင်္သာရီ- ညောင်ပင်ကွင်း- သဲဖြူ လမ်းအပိုင်း ပြန်လည်အပ်နှံမှုအား တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(ဒေါက်တာကျော်ဆန်း၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီး)

401/Ye/2014/831

မိတ္တူကို

တနင်္သာရီတိုင်းဒေသကြီးပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ ထားဝယ်မြို့
- မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
- လက်ခံစာတွဲ
- မျှောစာတွဲ




မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့
ဖုန်း – ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း–၀၅၉ ၄၂၂၆၃

စာအမှတ်၊ ၂၇၅ / စီမံ - ၁၂၀ / MPC
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇူလိုင် ( ၂၅ ) ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
အဆောက်အဦအမှတ်(၁၁)၊ နေပြည်တော်

အကြောင်းအရာ ။ **တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်ကို BOT စနစ်ဖြင့် အဆင့်မြှင့်တင်ဆောက်ရွက်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ရရှိရေးအတွက် အဆိုပြုလွှာတင်ပြခြင်း**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းညွှန်ချက်နှင့်အညီ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် **(Myeik Public Corporation Limited)** သည် တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်အား **BOT** စနစ်ဖြင့် အဆင့်မြှင့်တင် ဖောက်လုပ် လုပ်ကိုင်ခွင့်ရရှိရေးအတွက် မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ကို တင်ပြအပ်ပါသည်။

၂။ အဆိုပြုလုပ်ငန်းစီမံကိန်း၏ရင်းနှီးမြှုပ်နှံငွေစုစုပေါင်းမှာ ကျပ်ထောင်ပေါင်း(၂၇၇၁၆၃၉၉) ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ စီမံကိန်းလမ်းမကြီးအပိုင်းတွင် အောက်ဖော်ပြပါ လမ်းအသုံးပြုခကောက်ခံဂိတ်စခန်း (Toll Gate) (၂)ခုဖွင့်လှစ်၍ ကောက်ခံမည်ဖြစ်ပါသည် -

(က) ဂိတ်အမှတ်(၁) တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်

၄။ အဆိုပါလမ်းလုပ်ငန်းစီမံကိန်းကို အောက်ဖော်ပြပါ လမ်းအသုံးပြုခကောက်ခံမှုနှုန်းထားဖြင့် ကောက်ခံခွင့်ပြုပါရန် အဆိုပြုတင်ပြအပ်ပါသည် -

| အမှတ်စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခ(တစ်မိုင်နှုန်း) |
|---|---|---|
| (၁) | သုံးဘီးဆိုင်ကယ် | ၅ ကျပ် |
| (၂) | ထော်လာဂျီ(ဒိန်ခေါင်း)၊ ဆလွန်း၊ ဗင်၊ (၂)တန်အောက် | ၅ ကျပ် |
| (၃) | Farm Truck (၂ လုံးထိုး)၊ Double Cab၊ Pajero၊ Parado၊ Micro Bus၊ Super Custom ခရီးသည်ယာဉ်(လတ်) | ၁၅ ကျပ် |
| (၄) | ဟိုင်းလတ်၊ လိုက်ထရပ်(သေး) | ၂၀ ကျပ် |

| | | |
|---|---|---|
| (၅) | ဒိုင်နာ၊ ကင်တာ(လတ်)၊ လိုက်ထရပ်(လတ်) (၄ ဘီး) | ၂၀ ကျပ် |
| (၆) | Farm Truck (၄ လုံးထိုး) | ၃၀ ကျပ် |
| (၇) | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ် (ကိုယ်ထည်အလျား-၁၅ပေအောက်) (၆)ဘီးကား၊ Mini Bus ခရီးသည်(၂၄)ဦး၊ ဟီးနိုး(သေး) (၂၅)ဦး | ၃၀ ကျပ် |
| (၈) | ဒိုင်နာ၊ ကင်တာ(ကြီး)၊ (ကိုယ်ထည်အလျား - ၁၅ ပေအထက်) (၆)ဘီး | ၇၅ ကျပ် |
| (၉) | BM ခရီးသည်တင်ယာဉ်(လတ်)၊ ခရီးသည် (၂၆ မှ ၃၅)ဦးထိ | ၃၀ ကျပ် |
| (၁၀) | ဟီးနိုး၊ ကာကို၊ နီဆန်း၊ ကွန်တို(၆)ဘီးကား (ကုန်တင်ယာဉ်) | ၁၀၀ ကျပ် |
| (၁၁) | TE 11၊ TE 21၊ GMC၊ Fuso၊ UD ကောင်တာ (၆)ဘီးကား (ကုန်တင်ယာဉ်) | ၁၀၀ ကျပ် |
| (၁၂) | ဟီးနိုး/ဟွန်ဒိုင်း/ဒေဝူး ခရီးသည်တင်ယာဉ် (ကြီး) (ခရီးသည် ၃၆ မှ ၄၅ ဦးထိ) | ၅၀ ကျပ် |
| (၁၃) | ခရီးသည်တင်မှန်လုံယာဉ်ကြီး (ခရီးသည် ၄၆ ဦးနှင့်အထက်) | ၅၅ ကျပ် |
| (၁၄) | (၆)ဘီးကား၊ ဝင်ရိုး(၂)ခုပါ၊ ကုန်တင်ယာဉ်ကြီး | ၁၀၀ ကျပ် |
| (၁၅) | (၈)ဘီးကား၊ ဝင်ရိုး(၃)ခုပါ၊ ကုန်တင်ယာဉ်ကြီး | ၁၁၅ ကျပ် |
| (၁၆) | (၁၀)ဘီးကား၊ ဝင်ရိုး(၃)ခုပါ၊ ကုန်တင်ယာဉ်ကြီး | ၁၂၅ ကျပ် |
| (၁၇) | (၁၂)ဘီးကား၊ ဝင်ရိုး(၄)ခုပါ၊ ကုန်တင်ယာဉ်ကြီး | ၁၅၀ ကျပ် |
| (၁၈) | (၁၄)ဘီးကား၊ ဝင်ရိုး(၅)ခု (Lift Axle) ပါ၊ ကုန်တင်ယာဉ်ကြီး (ဘီးအားလုံးလမ်းပေါ် ချ၍မောင်းနှင်ရမည်။) | ၁၇၅ ကျပ် |
| (၁၉) | (၁၄)ဘီးတွဲကား၊ ဝင်ရိုး(၄)ခုပါ၊ ကုန်တင်ယာဉ်ကြီး(နောက်တွဲပါ) | ၂၀၀ ကျပ် |
| (၂၀) | (၁၈)ဘီးတွဲကား၊ ဝင်ရိုး(၅)ခုပါ၊ ကုန်တင်ယာဉ်ကြီး(နောက်တွဲပါ) | ၃၀၀ ကျပ် |
| (၂၁) | (၂၂)ဘီးတွဲကား၊ ဝင်ရိုး(၆)ခုပါ၊ ကုန်တင်ယာဉ်ကြီး(နောက်တွဲပါ) | ၃၅၀ ကျပ် |
| (၂၂) | အမှတ်စဉ်(၁၀)မှ (၂၁)အတွင်း ပါရှိသော ကုန်တင်ယာဉ်များသာ ကုန်မပါ အလွတ်ဖြစ်ပါက | ၁၀၀ ကျပ် |

၅။ လမ်းအသုံးပြုခ ကောက်ခံရငွေမှ အောက်ပါနှုန်းထားအတိုင်း နိုင်ငံတော်သို့ ပြန်လည်ပေးသွင်းမည်ဖြစ်ပါသည်။

| | | |
|---|---|---|
| (၁) | ပထမ (၅)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | ( ၆ )နှစ်မြောက်မှ (၁၅)နှစ်မြောက်အထိ (၁၀)နှစ် | ၅ % |
| (၃) | (၁၆)နှစ်မြောက်မှ (၂၅)နှစ်မြောက်အထိ (၁၀)နှစ် | ၁၀ % |
| (၄) | (၂၆)နှစ်မြောက်မှ (၃၅)နှစ်မြောက်အထိ (၁၀)နှစ် | ၁၅ % |
| (၅) | (၃၆)နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ ( ၅ )နှစ် | ၂၀ % |
| (၆) | (၄၀)နှစ်ကျော်ကာလအတွက် အချိန်တိုးမြှင့်ကောက်ခံခွင့်တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့်ရာခိုင်နှုန်းအတိုင်း ပေးသွင်းပါမည်။ | |

၆။ အဆိုပြုတင်ပြထားသော လမ်းလုပ်ငန်းစီမံကိန်းတွင် ရင်းနှီးမြှုပ်နှံမှုငွေကြေးပမာဏများပြားခြင်းနှင့် နှစ်စဉ်လမ်းပြုပြင်ထိန်းသိမ်းစရိတ်များပြားခြင်း၊ ဖြတ်သန်းသည့် ကားအရေအတွက်နည်းပါခြင်း

တို့ကြောင့်လည်းကောင်း၊ လမ်းအသုံးပြုခနှုန်းထား၊ သက်တမ်းကာလနှင့် လမ်းအသုံးပြုခကောက်ခံရငွေမှ နိုင်ငံတော်သို့ ပြန်လည်ပေးသွင်းရမှုနှုန်းထား၊ ဝင်ငွေခွန်ပေးသွင်းရမှုတို့ကြောင့်လည်းကောင်း၊ အရင်းကြေကာလမှာ (၂၆)နှစ်နှင့် (၁)လဖြစ်ပြီး **Internal Rate of Return (IRR) (3.5%)** ဖြစ်ပါသည်။ ထို့ကြောင့် အဆိုပြုထားသော လမ်းလုပ်ငန်းစီမံကိန်းကို ကနဦးနှစ်ပေါင်း(၄၀)လုပ်ကိုင်ခွင့်ပြုပါရန်နှင့် သက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင်(၅)နှစ်စီဖြင့် (၃)ကြိမ်သက်တမ်းတိုးမြှင့်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် **(Myeik Public Corporation Limited)** သည် တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်ကို **BOT** စနစ်ဖြင့် အဆင့်မြှင့်တင်ဖောက်လုပ်ခြင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိရေးအတွက် လမ်းမကြီးများဥပဒေနှင့်အညီ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥဒေတို့အရ အဆိုပြုတင်ပြချက်များအပေါ် လိုအပ်သလို လမ်းညွှန်မှုပေး ပါရန်နှင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်သက်သာခွင့်များ ရရှိရေးအတွက် အဆိုပြုချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြလျှောက်ထားပေးပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

Soe Win
Managing Director
Myeik Public Corporation

မိတ္တူကို

- ဒုတိယဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန
- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
- ရုံးလက်ခံ
- မျှောစာတွဲ




မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့
ဖုန်း- ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း-၀၅၉ ၄၂၂၆၃

စာအမှတ်၊ ၂၇၆ / စီမံ - ၁၂၁ / MPC
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇူလိုင် ( ၂၅ ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

**အကြောင်းအရာ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း**

၁။ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် Myeik Public Corporation Limited သည် လမ်းမကြီးများဥပဒေနှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင်၊ တနင်္သာရီ-ထုံခါ-သဲဖြူ-မော်တောင်လမ်း(၆၉/၃)မိုင်ကို ခေတ်မီစက်ယန္တရားများ၊ ခေတ်မီ နည်းပညာများအသုံးပြု၍ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသော စံချိန်စံညွှန်းများ နှင့်အညီ ကုမ္ပဏီ၏ကုန်ကျစရိတ်ဖြင့် BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်ကာ လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်သွား မည် ဖြစ်ပါသည်။

၂။ အဆိုပါဖောက်လုပ်ပြီးစီးသောလမ်းတွင် ဖြတ်သန်းသွားသော မော်တော်ယာဉ်များအား လမ်းအသုံးပြုခကောက်ခံသည့်လုပ်ငန်းကို ကနဦးနှစ်(၄၀)နှင့် တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့်လုပ်ကိုင်ခွင့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

Soe Win
Managing Director
Myeik Public Corporation

မိတ္တူကို
- ရုံးလက်ခံ/မျှောစာတွဲ

# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့

ဖုန်း- ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း-၀၅၉ ၄၂၂၆၃

စာအမှတ်၊ ၂၇၇ / စီမံ - ၁၂၂ / MPC

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇူလိုင် ( ၂၄ ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ(၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited) သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင်၊ **တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်** ရှည်လျားသောလမ်းအား BOT စနစ်ဖြင့် အဆင့်မြှင့်တင်ပြုပြင်ဖောက်လုပ်ကာ လုပ်ငန်းလုပ်ကိုင်၍ လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်းအားဆောင်ရွက်နိုင်ရန်ရည်ရွယ်၍ ခေတ်မီနည်းပညာ စက်ကိရိယာများဖြင့် အဆင့်တိုးမြှင့် ဖောက်လုပ် လုပ်ကိုင်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံငွေစုစုပေါင်း ကျပ်သောင်းပေါင်း (၂၇၇၁၆၃၉၉)ကို ရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ လမ်းတည်ဆောက်ပြုပြင်ဖောက်လုပ်ပြီး ကနဦးနှစ်ပေါင်း(၄၀)နှင့် တစ်ကြိမ်လျှင်(၅)နှစ်စီနှင့် (၃)ကြိမ်အထိ သက်တမ်းတိုးမြှင့်ကာလအတွင်း လမ်း၊ တံတားအသုံးပြုခများကို ကောက်ခံမည်ဖြစ်ပြီး လမ်း၊ တံတားအသုံးပြုခကောက်ခံရရှိသော အမြတ်ငွေများကိုလည်း ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အတွင်းအခြားခွင့်ပြုထားသည့်လုပ်ငန်းများတွင် ပြန်လည်ပြီး ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

၄။ သို့ပါ၍ နိုင်ငံတော်၏ အဓိကရည်မှန်းချက်တစ်ရပ်ဖြစ်သော လမ်းပန်းဆက်သွယ်မှု လုံခြုံချောမွေ့စေရေး၊ ကုန်စည်စီးဆင်းမှု လျှင်မြန်သွက်လက်စေရေး အထောက်အကူပြုစေရန်အတွက် လည်းကောင်း၊ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ဒေသဖွံ့ဖြိုးရေးကို တစ်ဖက်တစ်လမ်းမှ အထောက်အကူပြုလာနိုင်စေရန်အတွက်လည်းကောင်း၊ လမ်းတံတားနည်းပညာရပ်များ တိုးပွားရရှိစေရန်

အတွက်လည်းကောင်း၊ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၁၁)၊ ပုဒ်မ(၂၀)ပါ ပြဋ္ဌာန်းထားသည့်အတိုင်း အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန်နှင့် တည်ဆောက်ရေးကာလပြီးစီးချိန်မှစ၍ ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့် အခွန်ဆိုင်ရာ သက်သာခွင့်များ ခွင့်ပြုပေးပါရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်၊

၅။ ထို့အပြင် **တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်ကိုဆောက်လုပ်ရေး** ဝန်ကြီးဌာနမှ သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ပြုပြင်ဖောက်လုပ်ပြီးပါက ၄င်းလမ်းတွင် ဖြတ်သန်းသွားသော မော်တော်ယာဉ်များအား လမ်းအသုံးပြုခကို မြန်မာကျပ်ငွေဖြင့် ကောက်ခံဆောင်ရွက်မည်ဖြစ်ပါသည်၊

၆။ အထက်ပါလျှောက်ထားမေတ္တာရပ်ခံချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည် -

(က) ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း ရင်းနှီးမြှုပ်နှံမှုပြုရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(ဂ) ပရိုညာဉ်စာချုပ် (မူကြမ်း)၊

(ဃ) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(င) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

Soe Win
Managing Director
Myeik Public Corporation

မိတ္တူကို

- ရုံးလက်ခံ/မျှောစာတွဲ

မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့

ဖုန်း- ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း-၀၅၉ ၄၂၂၆၃

စာအမှတ်၊ ၂၇၈ / စီမံ - ၁၂၃ / MPC
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇူလိုင် ( ၂၆ ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited) သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင်၊**တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်** ရှည်လျားသောလမ်း အပိုင်းများအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်တည်ဆောက်ရန် ကနဦးနှစ်(၄၀)နှင့် တစ်ကြိမ်လျှင် (၅)နှစ်စီနှင့် (၃)ကြိမ်သက်တမ်းတိုးမြှင့်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အတွင်းဆောင်ရွက်နိုင်ရန်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကိရိယာများဖြင့် တည်ဆောက် လုပ်ကိုင်ခွင့်ရရှိနိုင်ရန် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် ခွင့်ပြုမိန့်ရရှိရန်အတွက် အောက်ပါတို့ကိုဝန်ခံကတိပြုပါသည်

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါသည် ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းကိုလည်း ဝန်ခံကတိပြုပါသည်။

(ဂ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်မှ လမ်းမကြီးများဥပဒေနှင့် နည်းဥပဒေများအရ လမ်း၊ တံတား တည်ဆောက်ပြုပြင်ဖောက်လုပ်ခြင်းနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ထို့အပြင် ကုမ္ပဏီအနေဖြင့်လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏

နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြု ပါသည်။

(င) မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited.) သည် **တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်** လမ်းအပိုင်းအား ဖောက်လုပ်ခြင်းလုပ်ငန်းကို **"လမ်းမကြီးများဥပဒေ"** နှင့် **"လမ်းမကြီးများဆိုင်ရာ နည်းဥပဒေများ"**၏ လမ်းပိုင်းဆိုင်ရာ ဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွား မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

Soe Win
Managing Director
Myeik Public Corporation

မိတ္တူကို

- ရုံးလက်ခံ
- မျှောစာတွဲ

Dingaway/BOT/simichat/mal 8




**မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်**

**အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့**

ဖုန်း- ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း-၀၅၉ ၄၂၂၆၃

စာအမှတ်၊ ၂၇၉ / စီမံ - ၁၂၄ / **MPC**

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇူလိုင် ( ၂၅ ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ ။ **မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited) သည် တနင်္သာရီ-ထုံခါ-သဲပြူ-မောတောင်လမ်း(၆၉/၃)မိုင်ကို BOT စနစ်ဖြင့် အဆင့်မြှင့်တင်ဆောင်ရွက်ခြင်း လုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်မှုနှင့်ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited) သည် တနင်္သာရီ-ထုံခါ-သဲပြူ-မောတောင်လမ်း(၆၉/၃)မိုင် ကိုBOT စနစ်ဖြင့်အဆင့်မြှင့်တင်ဆောင်ရွက် ခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ ထိုလုပ်ငန်းမှာ မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ မည်သည့် နိုင်ငံခြားမှ လုပ်ငန်းရှင်များ ပိုင်ဆိုင်ခြင်းမရှိကြောင်း ဝန်ခံကတိပြုပါသည်။

Soe Win
Managing Director
Myeik Public Corporation

မိတ္တူကို

- ရုံးလက်ခံ
- မျှောစာတွဲ




မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့
ဖုန်း- ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း-၀၅၉ ၄၂၂၆၃

စာအမှတ်၊ ၂၈၀ / စီမံ - ၁၂၅ / MPC
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇွန်လ ( ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ ။ **မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited) သည် တနင်္သာရီ-ထုံခါ-သဲဖြူ-မော်တောင်လမ်း(၆၉/၃)မိုင်ကို BOT စနစ်ဖြင့် အဆင့်မြင့်တင်ဆောင်ရွက်ခြင်း လုပ်ငန်းအတွက် လျှပ်စစ်ဓာတ်အား အသုံးပြုမှုနှင့်ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited) သည် တနင်္သာရီ-ထုံခါ-သဲဖြူ-မော်တောင်လမ်း(၆၉/၃)မိုင်ကို BOT စနစ်ဖြင့် အဆင့်မြင့်တင်ဆောင်ရွက် ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခဲ့ပါသည်။ ထိုသို့ဆောင်ရွက်ရာတွင် လျှပ်စစ်ဓာတ်အားအသုံးပြုမှုနှင့်ပတ်သက်၍ မဟာဓာတ်အားလိုင်းမှ လျှပ်စစ်ဓာတ်အားအလုံအလောက်မရရှိသည့် အခါတွင် ကိုယ်ပိုင် Generator-150 KVA (၂)လုံး၊ Generator-50 KVA (၂)လုံးတို့ဖြင့် အသုံးပြုသွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

Soe Win
Managing Director
Myeik Public Corporation

မိတ္တူကို
- ရုံးလက်ခံ
- မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၃၄၂၅ /၃၅၉/၃-၅၉/ အဖရ (တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၂ခုနှစ်၊ အောက်တိုဘာလ ၁၀ ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ **တနင်္သာရီ– ညောင်ပင်ကွင်း– သဲဖြူ– မော်တောင်လမ်း ဖောက်လုပ်ရန်ထောက်ခံတင်ပြခြင်း**

တနင်္သာရီတိုင်းဒေသကြီး ၊ (မြိတ်) အများပိုင်ကုမ္ပဏီလီမိတက် မှ မြိတ်ခရိုင်အတွင်းရှိ (တနင်္သာရီ– ညောင်ပင်ကွင်း– သဲဖြူ– မော်တောင်လမ်းအပိုင်း)တနင်္သာရီ– ညောင်ပင်ကွင်း– သဲဖြူ (၃၃)မိုင်၊ သဲဖြူ– မော်တောင် (၃၆)မိုင် စုစုပေါင်း (၆၉)မိုင်၊ တနင်္သာရီ– တံခါ – သဲဖြူ (၃၃မိုင် ၃ဖာလုံ) အား B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းဖြင့် အချိန်တိုကာလအတွင်း လုပ်ငန်းများပိုမိုမြန်ဆန်စွာ ဆောင်ရွက်နိုင်ပြီး လမ်းပန်းဆက်သွယ်ရေး ပိုမိုကောင်းမွန်လာမည်ဖြစ်၍ (မြိတ်)အများပိုင်ကုမ္ပဏီလီမိတက်သို့ B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် ပေးသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

၁၀/၁၀/၂၀၁၂

( ဒေါက်တာကျော်ဆန်း )
လမ်းပန်းဆက်သွယ်ရေးဝန်ကြီး

မိတ္တူကို

- (မြိတ်)အများပိုင်ကုမ္ပဏီလီမိတက်
- လက်ခံစာတွဲ
- မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊၃၄၂၄ /၃၅၉/၃-၅၉/ အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၂ခုနှစ်၊ အောက်တိုဘာလ ၁၀ ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ **တနင်္သာရီ– ညောင်ပင်ကွင်း – သဲဖြူ – မောတောင်လမ်း ဖောက်လုပ်ရန်ထောက်ခံတင်ပြခြင်း**

တနင်္သာရီတိုင်းဒေသကြီး ၊ (မြိတ်) အများပိုင်ကုမ္ပဏီလီမိတက် မှ မြိတ်ခရိုင်အတွင်းရှိ (တနင်္သာရီ– ညောင်ပင်ကွင်း– သဲဖြူ– မောတောင်လမ်းအပိုင်း)တနင်္သာရီ– ညောင်ပင်ကွင်း– သဲဖြူ (၃၃)မိုင်၊ သဲဖြူ– မောတောင် (၃၆)မိုင် စုစုပေါင်း (၆၉)မိုင်၊ တနင်္သာရီ– တုံဓါ – သဲဖြူ (၃၃မိုင် ၃ဖာလုံ) အား B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းဖြင့် အချိန်တိုကာလအတွင်း လုပ်ငန်းများပိုမိုမြန်ဆန်စွာ ဆောင်ရွက်နိုင်ပြီး လမ်းပန်းဆက်သွယ်ရေး ပိုမိုကောင်းမွန်လာမည်ဖြစ်၍ (မြိတ်)အများပိုင်ကုမ္ပဏီလီမိတက်သို့ B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် ပေးသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

(မြတ်ကို)
ဝန်ကြီးချုပ်

မိတ္တူကို

(မြိတ်)အများပိုင်ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

- 2 OCT 2013
86

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

## ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ)နှင့် ပုဒ်မ ဂ

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ် ။ ။ MPC/MIC/2013(4)
ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၁၅)ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

(က) အမည် - ဦးစိုးဝင်း
(ခ) အဖအမည် - ဦးစိန်ကြည်
(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် - ၆/မအရ(နိုင်) ၀၃၇၈၀၆
(ဃ) နေရပ်လိပ်စာ - အမှတ် -၃၊ စကားဝါလမ်း၊ မြစ်ငယ်ရပ်၊ မြိတ်မြို့၊ တနင်္သာရီတိုင်းဒေသကြီး။
(င) လူမျိုး/ဘာသာ - တရုတ်၊ ဗုဒ္ဓဘာသာ
(စ) အဖွဲ့အစည်းအမည် - မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited)
(ဆ) လုပ်ငန်းအမျိုးအစား - အများပိုင်
(ဇ) အဖွဲ့အစည်းတည်နေရာအရပ် - အမှတ် (၂၆)၊ မြေညီထပ်၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်ကွက်၊ မြိတ်မြို့၊ တနင်္သာရီတိုင်းဒေသကြီး။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁)............. (၂)..............
............ .............

(ခ) အဖအမည် (၁)............. (၂)..............
............ .............

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်
(၁)............. (၂)..............
............ .............

(ဃ) နေရပ်လိပ်စာ (၁)............ (၂)............
............ ............

(င) လူမျိုးဘာသာ (၁)............ (၂)............
............ ............

(စ) အဖွဲ့အစည်းအမည် ........................

(ဆ) လုပ်ငန်းအမျိုးအစား ........................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ........................
........................

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း -
ဝန်ဆောင်မှုလုပ်ငန်း - **တနင်္သာရီ-ထားဝယ်-သဲဖြူ-မောတောင် လမ်းအပိုင်းအား အဆင့်တိုးမြှင့်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း။**

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
............ **လီမိတက် ကုမ္ပဏီ**............

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
..............................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။
..............................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်-

(က) တစ်ဦးတည်းပိုင် - ......................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း - ......................

(ဂ) လီမိတက်ကုမ္ပဏီ - **မြိတ်အများပိုင် ကော်ပိုရေးရှင်း လီမိတက်**

(ဃ) သမဝါယမအသင်း - ......................

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ .............

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား ......................

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ ......................
(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက-
(က) ခွင့်ပြုမ,တည်ငွေရင်း -ကျပ် ၅၀,၀၀၀,၀၀၀,၀၀၀ (ကျပ်သန်းပေါင်းငါးသောင်းတိတိ)
(ခ) အစုရှယ်ယာအမျိုးအစား- ကျပ် ၁၀၀,၀၀၀ တန် ၅၀၀,၀၀၀ အစုရှယ်ယာ
(ဂ) အစုရှယ်ယာများက ထည့်ဝင်မည့် အစုရှယ်ယာ ပမာဏ- ၅၀၀,၀၀၀ ရှယ်ယာ
(ကျပ် ၅၀,၀၀၀,၀၀၀,၀၀၀)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ-

(က) မ,တည်ငွေရင်းပမာဏ (ထောင်ပေါင်း)

| | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ (US$) | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (၁) ငွေပမာဏ- | ၁၇,၅၈၄,၅၉၉ | - | ၁၇,၅၈၄,၅၉၉ |
| (၂) စက်ပစ္စည်းကရိယာများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၂) | - | ၄၃၄၈ | ၄,၁၇၄,၀၈၀ |
| (၃) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၅)၊ နောက်ဆက်တွဲ (၂) Sheet (2) | ၁၆၇,၀၀၀ | ၆၀၃၂ | ၅,၉၅၇,၇၂၀ |
| **စုစုပေါင်း** | ၁၇,၇၅၁,၅၉၉ | ၁၀,၃၈၀ | ၂၇,၇၁၆,၃၉၉ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်(ထောင်ပေါင်း)

| | ကျပ် | US$ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ | ၄,၁၇၄,၀၈၀ | ၄၃၄၈ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြားအလားတူ ပစ္စည်းများ၏တန်ဖိုး | ၅,၇၉၀,၇၂၀ | ၆၀၃၂ |
| | - | - |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | - | - |
| **စုစုပေါင်း** | ၉,၉၆၄,၈၀၀ | ၁၀,၃၈၀ |

**US$1 =၉၆၀ ကျပ်**

(ဂ) တည်ဆောက်မှုကာလ - (၃)နှစ်

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၁၂) လ

(င)　　တည်ဆောက်မှု စတင်မည့်အချိန်　　- ခွင့်ပြုမိန့်ရရှိပြီးလျှင်ပြီးခြင်း လုပ်ငန်း စတင်မည်ဖြစ်ပါသည်။

၉။　　ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က)　　လုပ်ငန်းအမျိုးအစား (ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှု စသည့်လုပ်ငန်းဖော်ပြရန်)　　- **တနင်္သာရီ-ထားဝယ်-သဲဖြူ-မောတောင်လမ်း (၆၉/၃)မိုင်အား အဆင့်မြှင့်တင်ဆောင်ရွက်ရန်**

(ခ)　　ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ- **တနင်္သာရီ-ထားဝယ်-သဲဖြူ-မောတောင်လမ်း ၆၉/၃)မိုင်အား အဆင့်မြှင့်တင်ဆောင်ရွက်ရန်**

(ဂ)　　ဆောင်ရွက်ပုံနည်းစနစ်　　-

(ဃ)　　နှစ်စဉ်စက်သုံးဆီလိုအပ်ချက်　　-

| | **အမျိုးအစား** | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ၉၀၀,၀၀၀ ဂါလံ |
| ၂။ | ဓာတ်ဆီ | ၇၅,၀၀၀ ဂါလံ |
| ၃။ | စက်ဆီ၊ ချောဆီ | ၇,၅၀၀ ဂါလံ |

(င)　　နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်-

| | **အားအသုံးပြုမှု** | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | .................. |
| ၂။ | ဓာတ်ဆီ/ ဒီဇယ်အင်ဂျင်စက်အင်အား | **150 KVA(၂)လုံး/ 50 KVA(၄)လုံး** |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | .................. |
| ၄။ | သဘာဝဓာတ်ငွေ့သုံး စက်အား | .................. |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား/လေအား စသည်များ) | .................. |

(စ)　　နှစ်စဉ် ရေလိုအပ်ချက် (နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်)　　ဂါလံ (၁၉. ၇၁) သိန်း
ဂါလံ (၅,၄၀၀)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက်-

| | **အမျိုးအမည်** | **ရေတွက်ပုံ** | **အရေအတွက်** | **တန်ဖိုး(ကျပ်သန်းပေါင်း)** |
|---|---|---|---|---|
| ၁။ | အဓိကကုန်ကြမ်း | | | |
| | (၁) ......... | ........ | ........ | ......... |
| | ......... | ........ | ........ | ......... |
| | | | | နောက်ဆက်တွဲ (၅) |
| ၂။ | အထောက်အကူကုန်ကြမ်း | | | |
| | (၁) ......... | ........ | ........ | ......... |
| | ......... | ........ | ........ | ......... |
| ၃။ | စက်သုံးဆီ/ ဓါတ်ငွေ့များ- | | | |
| | (၁) ......... | ........ | ........ | ......... |
| | (၂) ......... | ........ | ........ | ......... |

(ဇ) အဆောက်အအုံ လိုအပ်ချက်- - **လမ်းအသုံးပြုခ ကောက်ခံရေးဂိတ် (Toll Gate)၊ ရုံး၊ အဆောက်အအုံ၊ ဝန်ထမ်းနေအိမ်များ**

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် **-တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင် လမ်း(၆၉/၃)မိုင်၊**

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောက်ရွက်မည့်ဝန်ဆောင်မှု (တစ်နှစ်ပျမ်းမျှ)

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(၀၀၀) |
|---|---|---|---|---|
| (၁) | ......... | ........ | ......... | ........ |
| (၂) | ......... | ........ | ......... | ........ |

နောက်ဆက်တွဲ (၆)

(ဋ) ရောင်းချမည့်နည်းစနစ် **- လမ်းအသုံးပြုခကို ကျပ်ငွေဖြင့် ကောက်ခံမည် ဖြစ်ပါသည်။**

၁၀။ နှစ်စဉ်ကုန်ထုတ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | | ခန့်မှန်းခြေ (ထောင်ပေါင်း) | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | ၁၇,၇၅၁,၅၉၉ | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | - | ၁၀,၃၈၀ |
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | - | - |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ | - | - |

(င) နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ — နောက်ဆက်တွဲ (၆)

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့် အမှုထမ်းများ-

| **အမှုထမ်းအမျိုးအစား** | **ဦးရေ** |
| --- | --- |
| **ဝန်ထမ်း** | ၂၆၆ ဦး |

**နောက်ဆက်တွဲ (၁၀)**

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

| **ကျွမ်းကျင်မှုအမျိုးအစား** | **ဦးရေ** | **ခန့်ထားမည့်အချိန်ကာလ** |
| --- | --- | --- |

---------------- မလိုအပ်ပါ ---------------------

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ-

| | | ကျပ်ငွေ (သန်းပေါင်း) | နိုင်ငံခြားငွေ (သန်းပေါင်း) |
| --- | --- | --- | --- |
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု (နောက်ဆက်တွဲ (၈) | - | - |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် (နောက်ဆက်တွဲ ၈) | - | - |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် (နောက်ဆက်တွဲ ၈) | - | - |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်)ကျပ် | - | - |
| (င) | အရင်းကျေကာလ | (၂၆)နှစ်၊ (၆)လ **IRR -3.5%** | |
| (စ) | အခြားအကျိုးအမြတ်များ | - လမ်းပန်းဆက်သွယ်မှု အဆင်ပြေချောမွေ့စေပြီး၊ နိုင်ငံတော်အတွက် ဝင်ငွေရရှိမည်ဖြစ်ပါသည်။ | |
| (ဆ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | - ပြည်တွင်းမှ လုပ်သား ၂၆၆ ဦး အလုပ်အကိုင်ရရှိပါမည်။ နောက်ဆက်တွဲ (၁၀) | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်-

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)၊

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်းမရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

လက်မှတ်၊ 20/1/2014

အမည် ၊ Soe Win

ရာထူး ၊ Managing Director, Myeik Public Corporation

ဌာန ၊

( ၄ ) လမ်းသားတည်ဆောက်ရာတွင် ယာဉ်နှင့်ကုန်အလေးချိန်စုစုပေါင်း အနည်းဆုံး(၆၀)တန်ခံနိုင်ရန် တည်ဆောက်ပေးရမည်။

( ၃ ) တံတားများတည်ဆောက်ရာတွင် ( AASHTO HS 20-44 လမ်းမကြီးများသတ်မှတ်စံချိန်စံညွှန်းအရ ) ယာဉ် နှင့် ကုန် စုစုပေါင်းအလေးချိန် (၆၀) တန် ခံနိုင်ရန်တည်ဆောက်ပေးရမည်၊ တံတားအပေါ်ပိုင်းကိုယ်ထည်မှာ သံမဏိသံဘောင်တံတား (သို့မဟုတ်)သံအားဖြည့်ဘိလပ်မြေကွန်ကရစ်တံတားကိုယ်ထည်များ ဖြစ်စေရပါမည်။

"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏တာဝန်များ

၄။ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ တာဝန်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-

( က ) လမ်း-တံတားများအား B.O.T. စနစ်ဖြင့် လုပ်ကိုင်မှုကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က ကြီးကြပ်ကွပ်ကဲမှုပေးရမည်။

( ခ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများဆောင်ရွက်နိုင်ရန် နှင့် ဥပဒေနှင့်အညီ စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် လိုအပ်သောခွင့်ပြုမိန့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရရှိရန် ပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

( ဂ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည်လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သောသက်ဆိုင်ရာဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏ အမတည်ပြုချက်၊ သဘောတူညီချက်နှင့် ခွင့်ပြုချက်များရရှိအောင် ဆောင်ရွက်ပေးရမည်။

( ဃ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည်လုပ်ငန်းစီမံကိန်းအတွက် အဆိုပြုထားသော လမ်းဖြောင့်တန်းမှု အတိုင်းရရှိစေရန် ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။

( င ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် သတ်မှတ်စံချိန်စံညွှန်းနှင့်အညီဖောက်လုပ်ပြီးစီးပါက လုပ်ငန်းစီမံကိန်း၏ အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ( Final Completion Certificate) ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား ယုပ်ပေးရမည်၊ လမ်းအသုံးပြုခကောက်ခံခြင်းကိုလည်း ခွင့်ပြုရမည်။

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏တာဝန်များ

၅။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

( က ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤစာချုပ်ပါလမ်းအပိုင်းအတွက် လမ်း-တံတားအသုံးပြုခကောက်ခံရန် တစ်ဦးတည်းကိုယ်စားလှယ်အဖြစ် ဆောင်ရွက်ရမည်။

( ခ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပဋိညာဉ်စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်းအတိုင်းအတာပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ လုပ်ငန်းပြီးစီးအောင်ဆောင်ရွက်ခြင်းနှင့် ပဋိညာဉ်စာချုပ်ပါအချက်များနှင့်အညီ ပျက်ကွက်မှုတစ်စုံတစ်ရာအတွက် ပြင်ဆင်မှုပြုခြင်းတို့ကို သဘောတူပြီးဖြစ်သည့်အတိုင်း ဆောင်ရွက်ရမည်။

( ဂ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည်အပိုဒ် ၂ ပါဆောင်ရွက်ရမည့်လုပ်ငန်းများနှင့် အပိုဒ် ၃ပါ စံချိန်စံညွှန်းများကို ပြီးဆုံးအောင်ဆောင်ရွက်ရန် တာဝန်ရှိသည်။

( ဃ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ရာနှုန်းပြည့် ရင်းနှီးမြှုပ်နှံပြီး သီးခြားကုမ္ပဏီ တစ်ခုကို ဖွဲ့စည်း၍ အဆိုပြုသည့်လမ်းအပိုင်းပြုပြင် ဖောက်လုပ်စီမံအုပ်ချုပ်ခြင်းလုပ်ငန်းကိုပြုလုပ်လိုပါက ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ ခွင့်ပြုချက်ရယူ၍ ပြုလုပ်နိုင်သည်။

( င ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ကြီးကြပ်သူ၊ အလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံ၊ ပစ္စည်းများ၊ ကိရိယာတန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းထောက်ပံ့ရမည့်အပြင် ပုံစံပြုပြင်ခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ ပြီးဆုံးအောင်ဆောင်ရွက်ခြင်းနှင့် ပျက်ကွက်မှုအတွက် ပြင်ဆင်မှုပြုပေးခြင်းစသည်တို့ကို ဆောင်ရွက်ရမည်။

( စ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ ဆောက်လုပ်ရေးစခန်းအားလုံးနှင့်လုပ်ငန်းများအားလုံးရှိလုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့်ဘေးအန္တရာယ်ကင်းရှင်းစေမှုတို့အတွက် အပြည့်အဝ တာဝန်ယူရမည်။

( ဆ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပြည်တွင်းမှ ဝန်ထမ်းများ၊ အလုပ်သမားများ၊ ယင်းတို့၏ လုပ်အားခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်၊ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက်လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ၊ လက်မှုပညာသည်များနှင့် အလုပ်သမားများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

( ဇ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေး နှင့် ဘေးအန္တရာယ်ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

( ဈ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပုံစံပြုဆောင်ရွက်စဉ်နှင့် လုပ်ငန်းအကောင်အထည်ဖော်စဉ် အတွင်း လိုအပ်သော ကြီးကြပ်ကွပ်ကဲမှုများကို လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ် (Final Completion Certificate)ရရှိသည်အထိ ပြုလုပ်ပေးရမည်၊ (Final Completion Certificate) ရရှိပြီး "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏သဘောတူညီချက်ဖြင့် လမ်းအသုံးပြုခကို စတင်ကောက်ခံခွင့်ရှိသည်။

( ည ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပြည်ပမှအလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

( ဋ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပစ္စည်း၊ ထုတ်ကုန်(သို့မဟုတ်)ကိရိယာတန်ဆာပလာများ ဝယ်ယူမှုအတွက် တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူတစ်ဦး(သို့မဟုတ်)အများကိုလွှတ်လပ်စွာ ပြောင်းလဲနိုင်သည်၊ တစ်ဆင့်ခံ လုပ်ငန်း လုပ်ကိုင်ခွင့် ရသူ အားလုံးသည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"၏အမည်ကို သာရယူရမည့်အပြင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏သဘောတူညီချက်နှင့်အညီ ဖြစ်ရမည်။

( ဌ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် လမ်းနှင့်တံတားများ၏ပုံစံအတွက် အဆိုပြုချက် တင်သွင်းရမည်၊ [ တံတားပြုပြင်တည်ဆောက်ခြင်းကို နောက်ဆက်တွဲ (က-၁) ပါအတိုင်း] သို့ရာတွင် ယင်းတို့သည် အသေးစိတ်ဖော်ပြချက်ပါ လိုအပ်ချက်များထက်အဆင့် မနိမ့်စေရ၊ အဆိုပြုချက် အသစ်တင်ပြရန် လိုအပ်လာပါက အဆိုပြုချက်အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့်အချိန်ဇယားသည်နောက်ကျခြင်းမရှိစေရ။

( ဍ ) မြေတိုင်းသည့်မြေပုံတွင် ဖော်ပြထားသည့်လမ်း၏ လမ်းအကြောင်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ခွင့်ပြုချက်ဖြင့်လိုအပ်သလိုပြင်နိုင်သည်။

( ဎ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာအတွင်းနှင့်အပြင်) အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့်မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရန်၊ အများပြည်သူအား နှောင့်ယှက်မှုမရှိစေရန်တို့အတွက် လိုအပ်သောအစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

( ဏ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကို ပြီးစီးအောင်မဆောင်ရွက်နိုင်လျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ စာဖြင့်ရေးသား၍ တောင်းဆိုမှုပြုနိုင်သည်၊ ယင်းတောင်းဆိုချက်တွင် လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်မှုအတွက် အသေးစိတ်အချက်အလက်များနှင့် အချိန်တိုးမြှင့်ပေးရန်အတွက် အသေးစိတ်အကြောင်းပြချက်များပါဝင်ရမည်၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ယင်းတင်ပြချက်အထောက်အထားများအပေါ်အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

( တ ) လမ်းဖြတ်သန်းသွားလာသည့် ဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်ရာတွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် သစ်တောဥပဒေပါပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

( ထ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏စာဖြင့်ရေးသားထားသောခွင့်ပြုချက်မရဘဲ လုပ်ငန်းကိုလွှဲပြောင်းခြင်း၊ လုပ်ငန်းတစ်စိတ်တစ်ဒေသကို ထပ်ဆင့်ငှားရမ်းခြင်းမပြုရ။

( ဒ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံမှ လုပ်ငန်း စတင်ရန် အကြောင်းကြားချက် ရရှိသည်နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည်လမ်းပန်းဆက်သွယ်မှု ပြတ်တောက်ခြင်းမရှိစေရန်အတွက် လုပ်ငန်းစိမ်ကိန်း နယ်နိမိတ်အတွင်းရှိ လမ်းနှင့်တံတားများကို ကောင်းစွာထိန်းသိမ်းထားရှိရမည်၊ ထို့အပြင်လုပ်ငန်းဆောင်ရွက်သည့်ကာလအတွင်း လမ်းများ၊ တံတားများကို ကောင်းမွန်သောအနေအထားရှိစေရန် အစဉ် ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကိုလည်းကောင်း၊ အကြောင်းအမျိုးမျိုးကြောင့် ပျက်စီးယိုယွင်းသွား၍ စံချိန်စံညွှန်းအတိုင်းပြန်လည်တည်ဆောက်ရန် လိုအပ်သည့် လမ်း-တံတား (လေလံတံတားများမပါဝင်ပါ ) လုပ်ငန်းများကိုလည်းကောင်း " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က မိမိစရိတ်ဖြင့် ဆောင်ရွက်ရမည်။

( ဓ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း-တံတားအသုံးပြုခကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့်နှုန်းထားများကို ပြောင်းလဲခြင်းမပြုရ။

( န ) စာချုပ်အရ ကင်းလွတ်ခွင့်ပြုထားသည့် မော်တော်ယာဉ်များမှအပ ကျန်မော်တော်ယာဉ်များကို လမ်းအသုံးပြုခကောက်ခံနိုင်သည်။

( ပ ) စတင်ကောက်ခံသည့်ပထမ (၅) နှစ်ကာလအတွက် လမ်း/တံတားအသုံးပြုခမှ နိုင်ငံတော်သို့ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်၊ ကျန်ကာလအတွက် အောက်ပါအတိုင်း နိုင်ငံတော်သို့ပေးသွင်းရန်ဖြစ်သည်-

| | | |
|---|---|---|
| ( ၁ ) | ပထမ (၅)နှစ်အတွက် | - ကင်းလွတ်ခွင့်ကာလ |
| ( ၂ ) | ၆ နှစ်မြောက်မှ ၁၅ နှစ်မြောက်အထိ (၁၀)နှစ် | - ၅% ပေးသွင်းရန် |
| ( ၃ ) | ၁၆ နှစ်မြောက်မှ ၂၅ နှစ်မြောက်အထိ (၁၀)နှစ် | - ၁၀% ပေးသွင်းရန် |
| ( ၄ ) | ၂၆ နှစ်မြောက်မှ ၃၅ နှစ်မြောက်အထိ (၁၀)နှစ် | - ၁၅% ပေးသွင်းရန် |
| ( ၅ ) | ၃၆ နှစ်မြောက်မှ ၄၀ နှစ်မြောက်အထိ (၅)နှစ် | - ၂၀% ပေးသွင်းရန် |

( ၆ ) ၄၀ နှစ်ကျော်ကာလအတွက် အချိန်တိုးမြှင့်ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန်ဖြစ်ပါသည်။

( ဖ ) " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လမ်းအသုံးပြုခ ကောက်ခံရငွေ စုစုပေါင်း၏ စာရင်းဇယားများကို နှစ်သက်တမ်းအလိုက် ပြက္ခဒိန်နှစ်၏ဇန်နဝါရီလ(၁)ရက်မှ ထိုနှစ် ဒီဇင်ဘာလ(၃၁) ရက်နေ့အထိ စနစ်တကျတိကျမှန်ကန်စွာပြုစုထားရမည်၊ တစ်နှစ်တာလမ်းအသုံးပြုခကောက်ခံရငွေများစာရင်းကို " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ စာရင်းစစ်အဖွဲ့ လာရောက်စစ်ဆေးချိန်တွင် စစ်ဆေးခံရန် အသင့်ဖြစ်နေရမည်။

( ဗ ) လမ်းအသုံးပြုခကောက်ခံရငွေများစာရင်းကို " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏စာရင်းစစ်အဖွဲ့မှ နောက်နှစ်၏နှစ်ဆန်း ဇန်နဝါရီလ (၁)ရက်နေ့မှစတင်၍ လာရောက်စစ်ဆေးပြီး နှစ်သက်တမ်းအလိုက် ပေးသွင်းရမည့်ရာခိုင်နှုန်းအရ ကျသင့်ငွေပမာဏကို ဖော်ပြအသိပေးအကြောင်းကြားရမည်။

( ဘ ) " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ စာရင်းစစ်အဖွဲ့မှ ကောက်ခံရငွေများစာရင်းကို စစ်ဆေးပြီး နောက်နေ့မှစ၍ ရက်ပေါင်း (၉၀) အတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ သတ်မှတ်ပေးသော အစိုးရဘဏ်နှင့် ငွေစာရင်းအမှတ်သို့ ဘဏ်ငွေလွှဲလွှာ (သို့မဟုတ်) မျဉ်းသားချက်လက်မှတ်ဖြင့်ပေးသွင်းရပါမည်၊ နိုင်ငံတော်သို့ ပေးသွင်းရမည့် ငွေပမာဏကိုရက်ပေါင်း(၉၀)အတွင်း အကြေပေးသွင်းရန်ဖြစ်ပြီး ပေးသွင်းပြီးကြောင်းအထောက်အထားငွေသွင်းချလံကို(၇)ရက်အတွင်း " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"ထံ တင်ပြရပါမည်၊ အဆိုပါပေးသွင်းရမည့်သတ်မှတ်ရက်ထက် ကျော်လွန်ပေးသွင်းပါက ရက်လွန်ဒဏ်ကြေးအဖြစ် (၁)ရက်လျှင် ပေးသွင်းရမည့် ငွေ (၁၀၀) ကျပ်လျှင် (၁)ကျပ်နှုန်း အပိုဆောင်းပေးသွင်းရမည်၊ ရက်လွန်ဒဏ်ကြေးပါ ပေးသွင်းရပါက ပေးသွင်းရန်ငွေနှင့် ရက်လွန်ဒဏ်ကြေးတို့ကို တစ်ပေါင်းတည်း အပြည့်ပေးသွင်းရမည်၊ ပေးသွင်းရန်ငွေနှင့် ရက်လွန်ဒဏ်ကြေးပေးသွင်းခြင်းကို အစစ်ဆေးခံသည့်နှစ်၏ နောက်ပြက္ခဒိန်နှစ်၊ ဒီဇင်ဘာလ (၃၁) ရက်နေ့ထက် မကျော်လွန်စေရပါ။

( မ ) ညှိနှိုင်းထားသော ကောက်ခံနှုန်းများအတိုင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ကောက်ခံရာတွင်အကျိုးအမြတ်မရရှိမှု၊ အရှုံးပေါ်မှုများရှိလာပါက ကောက်ခံသည့်လမ်းအသုံးပြုခနှုန်းထားများကို ညှိနှိုင်း ပြင်ဆင်ရန်အတွက် တင်ပြခွင့်ရှိသည်။ သို့ရာတွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏စာရင်းစစ်အဖွဲ့မှ စိစစ်ထားသည့် (၁)နှစ်ချင်း ဝင်ငွေ ထွက်ငွေ၊ အရှုံးအမြတ် စာရင်းဇယားအတိအကျကို အထောက်အထားနှင့် ပူးတွဲတင်ပြရမည်။

( ယ ) ခွင့်ပြုထားသော စာချုပ်သက်တမ်းကာလ နှစ် (၄၀) ပြည့်ပြီးနောက် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ အကျိုးအမြတ် မရရှိခဲ့လျှင်သော်လည်းကောင်း၊ ဆက်လက်ဆောင်ရွက်လိုလျှင်သော်လည်းကောင်း၊ ကောက်ခံမှုသက်တမ်းကာလကို (၁)ကြိမ်လျှင်(၅)နှစ်စီဖြင့်(၃)ကြိမ်သက်တမ်းတိုးမြှင့်၍ ကောက်ခံခွင့်ရရှိရေးအတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ တင်ပြနိုင်သည်။

( ရ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့်မပြုရ။

( လ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် တရားဝင်ကိုယ်စားလှယ်ခန့်ရန် ရည်မှန်းသူ(များ)၏အမည်၊ ကိုယ်ရေးအချက်အလက်များကို လုပ်ငန်းစတင်ရန် အကြောင်းကြားစာ ထုတ်ပေးသည့်နေ့မှ (၁၄)ရက်အတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ တင်ပြရမည်။

( ဝ ) ယင်းကိုယ်စားလှယ်သည် ဆောက်လုပ်ရေးနှင့် သက်ဆိုင်သည့် အထောက်အထားများ ပြင်ဆင်ထားရှိခြင်း၊ လုပ်ငန်းအကောင်အထည်ပေါ်ဆောင်ရွက်ခြင်းများကို အချိန်ပြည့်ဆောင်ရွက်ပေးရမည်။

( သ ) ယင်းကိုယ်စားလှယ်သည် လုပ်ငန်းခွင်မှ ပျက်ကွက်သည့်အခါ သင့်တော်သူတစ်ဦးကို အစားထိုးခန့်ထားပြီးနောက် အစားထိုးခန့်ထားကြောင်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ အကြောင်းကြားရမည်။

( ဟ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ခွင့်ပြုထားသော လမ်းအပိုင်းပေါ်ရှိ တံတားများ အားလုံး၏ ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို မိမိစရိတ်ဖြင့် အစဉ် ဆောင်ရွက်ရမည်။

( ဠ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပေ (၅၀) အောက်တံတားများကို ကိုယ်တိုင် တည်ဆောက်ရမည်။ ပေ (၅၀) နှင့်အထက်၊ ပေ (၁၈၀) အောက် တံတားများကိုမူ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ စံချိန်စံညွှန်း ဒီဇိုင်းသတ်မှတ်ပေးပြီး "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ မိမိစရိတ်ဖြင့် ဆောင်ရွက်ရမည်။ (တံတားတည်ဆောက်မှုကိုလည်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ ကုန်ကျစရိတ်ပေးပြီး တံတားတည်ဆောက်မှုလုပ်ငန်း အပ်နှံနိုင်သည်။)

( အ ) ပေ (၁၈၀) နှင့် အထက် တံတားကြီးများကို တည်ဆောက်ရာတွင် နိုင်ငံတော်မှ တည်ဆောက်ပါက တံတားအသုံးပြုခကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ အသုံးပြုခ လေလံစနစ်ဖြင့် ပေးသွင်းရမည်။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ အတည်ပြုသော ပုံစံအရ တည်ဆောက်ပါက တံတားအသုံးပြုခကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" တို့၏ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့် ကောက်ခံရမည်။

### လုပ်ငန်းအာမခံ (Performance Bank Guarantee)

၆။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် စာချုပ်ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအတွင်းရှိ တရားဝင်ခွင့်ပြုထားသောဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင်စည်းကမ်းချက်များမပါရှိဘဲ ပြန်လည်ရုပ်သိမ်း နိုင်ခွင့်မရှိသော လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံသို့ပေးအပ်ရမည်၊ အဆိုပါ ဘဏ်အာမခံ၏ သက်တမ်းသည် ထုတ်ပေးသည့်နေ့မှ လုပ်ငန်းပြီးဆုံးအောင်ဆောင်ရွက်သည်အထိဖြစ်သည်၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"

သည်လုပ်ငန်းစတင်ရန်အကြောင်းကြားစာရရှိပြီး (၃၀) ရက်အတွင်း လုပ်ငန်း စတင်ရန်ပျက်ကွက်လျှင်သော်
လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းပြီးစီးအောင်ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါစည်းကမ်းချက်
များကို လိုက်နာရန်ပျက်ကွက်ပါက ဘဏ်အာမခံငွေကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က သိမ်းယူရမည်၊
ဘဏ်အာမခံငွေကို လုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း(၃၀)အတွင်း
"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ထံ ပြန်လည်ထုတ်ပေးရမည်။

လမ်း-တံတားအသုံးပြုခကောက်ခံခြင်း

၇။ လမ်း-တံတားအသုံးပြုခကောက်ခံရန် နည်းလမ်းများမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ အဆိုပြုတင်ပြလာသည့်လမ်းအပိုင်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က သဘောတူပါက လမ်း-တံတားအသုံးပြုခ ကောက်ခံသည့်ဂိတ်ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ " က အဆင့်မီအောင် Steel, Aluminium, Brick Structure or Composite တို့ဖြင့်စနစ်တကျတည်ဆောက်ရမည်။| ဂိတ်တည်နေရာကိုနောက်ဆက်တွဲ(ခ) ပါအတိုင်း|

(ခ) လမ်း-တံတားအသုံးပြုခ ကောက်ခံခွင့်ပြုထားသော လမ်းမကြီးနှင့်ဆက်သွယ်နေသည့် အခြားလမ်းများမှ မော်တော်ယာဉ်များအတွက် လမ်း-တံတားအသုံးပြုခကောက်ခံရန် လိုအပ်သည့်နေရာများတွင် အဆင့်မီ ဂိတ်များ တည်ဆောက်ခွင့်ပြုသည်၊ " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က လိုအပ်၍ တင်ပြလာလျှင် ဂိတ်(၁)ဂိတ်ထက်ပို၍ တည်ဆောက်ခွင့်ပြုမည်။

(ဂ) လမ်း-တံတားအသုံးပြုခကို လမ်းအပိုင်းလိုက် မိုင်အရှည်နှင့် လမ်းအသုံးပြုခ(၁)မိုင်နှုန်း မြှောက်၍ ရသည့်ကျသင့်ငွေစုစုပေါင်းကို ဂိတ်မှငွေလက်ခံဖြတ်ပိုင်းပေး၍ တစ်ပေါင်းတည်းကောက်ခံရမည်။

(ဃ) လမ်း-တံတားအသုံးပြုခကောက်ခံရန် ခွင့်ပြုသည့်နေရာတိုင်းတွင် ကုန်ချိန်ကတ္တားတည်ဆောက်ခွင့်ပြုမည်မဟုတ်ပါ။

(င) လမ်း-တံတားအသုံးပြုခကောက်ခံရန် တည်ဆောက်ထားသော ဂိတ်အဝင်အထွက်နေရာများသည် အနည်းဆုံး (၄)လမ်းသွား အဆင့်မီ ဖြစ်ရမည်။

(စ) မလိုလားအပ်သောအုပ်ချုပ်မှုကိစ္စများမဖြစ်ပေါ်စေရန်အတွက် လမ်း-တံတားအသုံးပြုခကောက်ခံသည့်ဂိတ်များကို လုံခြုံရေးဂိတ်အဖြစ် အသုံးမပြုရ။

(ဆ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ သဘောတူညီချက်ဖြင့် ယာဉ်သွားလမ်းအားလုံးနှင့် သတ်မှတ်မိုင်အရှည်ကို ကတ္တရာရေပိတ်လွှာနှစ်ထပ်ခင်းပြီး၍ " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ " မှ သတ်မှတ်စံချိန်စံညွှန်းအတိုင်း ဆောင်ရွက်ထားရှိမှုကို စစ်ဆေးအတည်ပြုပြီး လုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီးစီးမှု လက်မှတ်ရရှိပါက လမ်းအသုံးပြုခကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က စတင်ကောက်ခံနိုင်သည်။

လမ်း-တံတားအသုံးပြုခကောက်ခံနှုန်းများ

လမ်း-တံတားအသုံးပြုခကောက်ခံနှုန်းများ

၈။ လမ်း-တံတားအသုံးပြုခကောက်ခံနှုန်းထားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) လမ်းအသုံးပြုခကောက်ခံနှုန်း။ လမ်းအသုံးပြုခကောက်ခံသော ဂိတ် (၁) ဂိတ်ကို ယာဉ်တစ်စီးဖြတ်သွားတိုင်းပေးဆောင်ရမည့် လမ်းအသုံးပြုခနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) သုံးဘီးဆိုင်ကယ်။ - ၁ မိုင်လျှင် ၅ ကျပ်

(၂) ထော်လာဂျီ(ဒိန်းဒေါင်း)၊ ဆလွန်း၊ ဗင်၊ - ၁ မိုင်လျှင် ၅ ကျပ်
• (၂) တန်အောက်။

| | | |
|---|---|---|
| ( ၃ ) | Farm Truck (၂လုံးထိုး)၊ Double Cab၊ Pajero၊ Parado၊ Micro Bus၊ Super Custom ခရီးသည်ယာဉ် (လတ်)။ | - ၁ မိုင်လျှင် ၁၅ ကျပ် |
| ( ၄ ) | ဟိုင်းလတ်၊ လိုက်ထရပ် (သေး)။ | - ၁ မိုင်လျှင် ၂၀ ကျပ် |
| ( ၅ ) | ဒိုင်နာ၊ ကင်တာ (လတ်)၊ လိုက်ထရပ် (လတ်) (၄) ဘီးကား။ | - ၁ မိုင်လျှင် ၂၀ ကျပ် |
| ( ၆ ) | Farm Truck (၄လုံးထိုး)။ | - ၁ မိုင်လျှင် ၃၀ ကျပ် |
| ( ၇ ) | ဒိုင်နာ၊ ကင်တာ၊ လိုက်ထရပ် (ကိုယ်ထည်အလျား=၁၅ ပေအောက်) (၆) ဘီးကား။ Mini Bus ခရီးသည် (၂၄) ဦး၊ ဟီးနိုး(သေး) (၂၅)ဦး။ | - ၁ မိုင်လျှင် ၃၀ ကျပ် |
| ( ၈ ) | ဒိုင်နာ၊ ကင်တာ (ကြီး) (ကိုယ်ထည်အလျား= ၁၅ ပေအထက်) (၆) ဘီး။ | - ၁ မိုင်လျှင် ၇၅ ကျပ် |
| ( ၉ ) | BM ခရီးသည်တင်ယာဉ် (လတ်) ခရီးသည် (၂၆ မှ ၃၅) ဦးထိ။ | - ၁ မိုင်လျှင် ၃၀ ကျပ် |
| ( ၁၀ ) | ဟီးနိုး၊ ကာကို၊ နိဆန်း၊ ကွန်တို (၆) ဘီးကား၊ (ကုန်တင်ယာဉ်)။ | - ၁ မိုင်လျှင် ၁၀၀ ကျပ် |
| ( ၁၁ ) | TE 11၊ TE 21၊ GMC၊ Fuso၊ UD ကောင်တာ (၆) ဘီးကား၊ (ကုန်တင်ယာဉ်)။ | - ၁ မိုင်လျှင် ၁၀၀ ကျပ် |
| ( ၁၂ ) | ဟီးနိုး/ဟွန်ဒိုင်း/ဒေဝူး ခရီးသည်တင်ယာဉ်(ကြီး) (ခရီးသည် ၃၆ မှ ၄၅) ဦးထိ။ | - ၁ မိုင်လျှင် ၅၀ ကျပ် |
| ( ၁၃ ) | ခရီးသည်တင်မှန်လုံယာဉ်ကြီး (ခရီးသည် ၄၆ ဦးနှင့်အထက်)။ | - ၁ မိုင်လျှင် ၅၅ ကျပ် |
| ( ၁၄ ) | (၆) ဘီးကား၊ ဝင်ရိုး (၂) ခုပါ၊ ကုန်တင်ယာဉ်ကြီး။ | - ၁ မိုင်လျှင် ၁၀၀ ကျပ် |
| ( ၁၅ ) | (၈) ဘီးကား၊ ဝင်ရိုး (၃) ခုပါ၊ ကုန်တင်ယာဉ်ကြီး။ | - ၁ မိုင်လျှင် ၁၁၅ ကျပ် |
| ( ၁၆ ) | (၁၀) ဘီးကား၊ ဝင်ရိုး (၃) ခုပါ၊ ကုန်တင်ယာဉ်ကြီး။ | - ၁ မိုင်လျှင် ၁၂၅ ကျပ် |
| ( ၁၇ ) | (၁၂) ဘီးကား၊ ဝင်ရိုး (၄) ခုပါ၊ ကုန်တင်ယာဉ်ကြီး။ | - ၁ မိုင်လျှင် ၁၅၀ ကျပ် |
| ( ၁၈ ) | (၁၄) ဘီးကား၊ ဝင်ရိုး (၅) ခု (Lift Axel) ပါ ကုန်တင်ယာဉ်ကြီး။ (ဘီးအားလုံးလမ်းပေါ်ချ၍ မောင်းနှင်ရမည်)။ | - ၁ မိုင်လျှင် ၁၇၅ ကျပ် |
| ( ၁၉ ) | (၁၄) ဘီး တွဲကား၊ ဝင်ရိုး (၄) ခုပါ၊ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ)။ | - ၁ မိုင်လျှင် ၂၀၀ ကျပ် |
| ( ၂၀ ) | (၁၈) ဘီး တွဲကား၊ ဝင်ရိုး (၅) ခုပါ၊ ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ)။ | - ၁ မိုင်လျှင် ၃၀၀ ကျပ် |

( ၂၁ ) (၂၂) ဘီး တွဲကား၊ ဝင်ရိုး (၆) ခုပါ၊ - ၁ မိုင်လျှင် ၃၅၀ ကျပ်
ကုန်တင်ယာဉ်ကြီး (နောက်တွဲပါ)။

( ၂၂ ) အမှတ်စဉ် (၁၀) မှ (၂၁) အတွင်းပါရှိသော - ၁ မိုင်လျှင် ၁၀၀ ကျပ်
ကုန်တင်ယာဉ်များသာကုန်မပါအလွတ်ဖြစ်ပါက

( ခ ) တံတားအသုံးပြုခကောက်ခံနှုန်း

( ၁ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ခွင့်ပြုထားသောလမ်းအပိုင်းပေါ်ရှိ တံတားများ အသုံးပြုခကို ကောက်ခံရာတွင် ပေ(၁၈၀)နှင့်အထက်ရှည်သည့် တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက်ထားသောတံတားများအား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများအတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" တို့၏ညှိနှိုင်းသဘောတူညီသည့်နှုန်းထားဖြင့်သာ ကောက်ခံရန်ဖြစ်သည်။

( ဂ ) နှုန်းထားများကို ဤစာချုပ်အရ မည်သို့ပင် သတ်မှတ်ထားစေကာမူ နိုင်ငံတော်မှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် ယာဉ်အမျိုးအစားနှင့် သတ်မှတ်နှုန်းထားအတိုင်း ကောက်ခံသွားရန်ဖြစ်ပါသည်၊ သို့ရာတွင် အောက်ဖော်ပြပါယာဉ်များကိုကင်းလွတ်ခွင့်ပြုရန်(သို့မဟုတ်)သင့်လျော်သောအထူးနှုန်းထားဖြင့် ကောက်ခံရန်ဖြစ်ပါသည်-

( ၁ ) သက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်း၊ ဝန်ကြီး၊ ဒုတိယဝန်ကြီးနှင့်အထက်အရေးကြီးပုဂ္ဂိုလ်လိုက်ပါလာသည့် ယာဉ်တန်းများ၊ တပ်မတော်၊ ပြည်သူ့ရဲတပ်ဖွဲ့နှင့် မီးသတ်ယာဉ်များ၊ သူနာပြုယာဉ်များအပြင် လုပ်ငန်းတာဝန်ဖြင့် ခရီးသွားလာရသော ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်)မှ လမ်း-တံတားအသုံးပြုခကင်းလွတ်ခွင့်ကဒ်များနှင့် သီးခြားခွင့်ပြုမိန့်လက်မှတ်ပါသည့်ယာဉ်များကို လမ်း-တံတားအသုံးပြုခကင်းလွတ်ခွင့်ပြုရန်။

( ၂ ) ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းအတွက် ဆောက်လုပ်ရေးပစ္စည်းများ တင်ဆောင်သွားလာသည့် မော်တော်ယာဉ်များကို လမ်း-တံတားအသုံးပြုခကင်းလွတ်ခွင့်ပြုရန်။

( ၃ ) နိုင်ငံတော်အတွက် စွမ်းစွမ်းတမံ တာဝန်ထမ်းဆောင်ခဲ့ကြပြီး၊ အပြစ်ကင်းစွာဖြင့် အငြိမ်းစားယူသွားသောပုဂ္ဂိုလ်ကြီးများနှင့် ၎င်းတို့၏ဇနီးများအား ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တရားဝင်အထောက်အထားအဖြစ် ဂုဏ်ပြုထုတ်ပေးထားသော လမ်း-တံတား အသုံးပြုခ ရာသက်ပန်ကင်းလွတ်ခွင့်လက်မှတ်ကိုင်ဆောင်၍ ကိုယ်တိုင်လိုက်ပါ သွားလာသည့်မော်တော်ယာဉ်များကို လမ်း-တံတားအသုံးပြုခကင်းလွတ်ခွင့်ပြုရန်။

( ၄ ) လုပ်ကိုင်ခွင့်ရလမ်းအပိုင်းရှိဒေသမှပြည်တွင်းစားသုံးမှုအတွက် ဒေသထွက်အခြေခံစားသောက်ကုန်ပစ္စည်းများသယ်ဆောင်လာသည့် မော်တော်ယာဉ်များကို သင့်လျော်သော လမ်း-တံတားအသုံးပြုခနှုန်းထားဖြင့် လျှော့၍ ကောက်ခံရန်။

( ၅ ) နိုင်ငံတော်မှ တာဝန်ယူဆောင်ရွက်သော ပြည်ပထုတ်ကုန် / သွင်းကုန်များကို ဌာနဆိုင်ရာထောက်ခံချက်အထောက်အထားဖြင့် သယ်ဆောင်သွားလာသည့်မော်တော်ယာဉ်များကို သင့်လျော်သော လမ်း-တံတားအသုံးပြုခနှုန်းဖြင့် လျှော့၍ ကောက်ခံရန်။

မိုင်အရှည်၊ နေ့ရက်၊ အချိန်နှင့်ကာလ

၉။ မိုင်အရှည်၊ နေ့ရက်၊အချိန်နှင့် ကာလတို့ကို အောက်ပါအတိုင်းသတ်မှတ်ပါသည်-

(က) " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ " သည် တနင်္သာရီ-သဲဖြူ-မောတောင်လမ်းအပိုင်း (၆၉/၀) မိုင်နှင့် တနင်္သာရီ-တုံခါ-သဲဖြူလမ်းလမ်းပိုင်း (၃၃/၃) မိုင်၊ စုစုပေါင်း (၁၀၂/၃) မိုင်တို့ကို ပုံစံပြုရန်နှင့် ဖောက်လုပ်တည်ဆောက်ရန်။

(ခ) " လုပ်ငန်းစတင်သည့်နေ့ " သည် " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ လုပ်ငန်းစတင်ရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ကို အကြောင်းကြားသည့်နေ့ဖြစ်သည်။

(ဂ) "လုပ်ငန်းကာလ" ဆိုသည်မှာ-

(၁) ဤပဋိညာဉ်စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ခွင့်ပြုကြောင်း အကြောင်းကြားသည့် နေ့မှစ၍ (၃)နှစ်အတွင်း ပြီးစီးအောင်ဆောင်ရွက်ပေးရမည်။

(၂) ပေ (၁၀၀)နှင့်အထက်တံတားများ တည်ဆောက်ချိန်ကို (၅)နှစ် သတ်မှတ်ပေးထား ပါသည်။

(ဃ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက် ဖြစ်ပြီး "နှစ်" ဆိုသည်မှာ ပြက္ခဒိန်နှစ်ဖြစ်သည်။

လုပ်ငန်းတန်ဖိုး

၁၀။ စာချုပ်တွင် ချုပ်ဆိုသည့် လမ်းအပိုင်းအတွက် လမ်းနှင့် တံတား ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ရာ၌ ရင်းနှီးမြှုပ်နှံမှုတန်ဖိုး စုစုပေါင်းမှာ မြန်မာကျပ်ငွေ ( ၄၂၁၁၈.၇၇၅ ) သန်း (ကျပ် လေးသောင်းနှစ်ထောင်တစ်ရာ တစ်ဆယ့်ရှစ်သန်း ခုနစ်သိန်းခုနစ်သောင်းငါးထောင်တိတိ) ဖြစ်ပါသည်။

လုပ်ငန်းအစီအစဉ်နှင့်တိုးတက်မှု

၁၁။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရပါမည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လုပ်ငန်းအစီအစဉ်ကို လုပ်ငန်းစတင်သည့်နေ့ မှ (၂)လ အတွင်း " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ တင်သွင်းရမည်။

(ခ) " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် လစဉ်တိုးတက်မှုအစီရင်ခံစာ [ နှစ်ဖက် (သက်ဆိုင်ရာ ဒေသရှိ စစ်ဆေးသော " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ အင်ဂျင်နီယာ နှင့် " လုပ်ငန်းလုပ် ကိုင်ခွင့်ရသူ" မှ လုပ်ငန်းဆောင်ရွက်သည့် အင်ဂျင်နီယာ) သဘောတူ၍ လက်မှတ်ထိုးထား သည့်ပုံစံဖြင့်] ကို မိတ္တူ (၆) စုံ ပြုစုပြီး "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ တင်သွင်းရမည်။

စစ်ဆေးခြင်း

၁၂။ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သောအလုပ်သမား၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်းဆောင်ရွက်မှု အစရှိသည်တို့ကို "လုပ်ငန်းလုပ်ကိုင်ခွင့် ပြုသူ" ကလိုအပ်သလို ထိရောက်စွာစစ်ဆေးရန်နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"အထောက်အပံ့ပြုရန်အတွက် စာရွက် စာတမ်းအထောက်အထားများ၊ သတင်းအချက်အလက်များကိုဖြည့်ဆည်း ဆောင်ရွက်ပေးရမည်၊ လမ်းဖောက်လုပ်

ပြုပြင်ခြင်း လုပ်ငန်းပြီးဆုံး၍ လုပ်ငန်းစတင် ဆောင်ရွက်သည့် အချိန်မှ စ၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ကောက်ခံရရှိသော လမ်း-တံတားအသုံးပြုခငွေများနှင့် စပ်လျဉ်းသည့် စာရင်းအင်းများအပြည့်အစုံ စနစ်တကျထားရှိရမည်၊ အဆိုပါစာရင်းအင်းများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ကအခါအားလျော်စွာ စစ်ဆေးခွင့်ရှိရမည်။

ကန့်ကွက်ခြင်း

၁၃။ စစ်ဆေးတွေ့ရှိချက်များအရ အဆိုပါ လမ်း-တံတားတည်ဆောက်ပြုပြင်ထိန်းသိမ်းခြင်း (သို့မဟုတ်) သတ်မှတ်စံချိန်စံညွှန်းများနှင့် စပ်လျဉ်း၍ ချို့ယွင်းမှု (သို့မဟုတ်) ပဋိညာဉ်စာချုပ်နှင့် မကိုက်ညီမှုတွေ့ရှိရပါက "လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ" က ကန့်ကွက်နိုင်သည့်အပြင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"ထံ ချက်ချင်း အကြောင်းကြားရမည်၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"သည် ချို့ယွင်းချက်ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"၏စရိတ်ဖြင့် ကောင်းစွာ ပြန်လည်ဆောင်ရွက် ပေးရန်နှင့် ကန့်ကွက်ခံရသည့်ပစ္စည်းများကို ပဋိညာဉ်စာချုပ်နှင့်အညီ ဖြစ်စေရန် တာဝန်ယူရမည်။

မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၁၄။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည်-

(က) "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝ ဘေးအန္တရာယ်များ၊ အစိုးရတားမြစ်ချက်များ၊သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်းများ၊ ပြည်သူတို့၏နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသောထိုက်သင့်သောဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှုပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်းမရှိသော ပေါ်ပြခဲ့ပြီးသည့်အလားတူ အကြောင်းတစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များကို ဆောင်ရွက်ရန်(သို့မဟုတ်)အခြားစာချုပ်ဝင်တစ်ဖက်ဖက်၏ဆောင်ရွက်မှုကို လက်ခံရန်လုံးဝဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဘက်မှ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာများကိုဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်း မရှိသောဖြစ်ရပ်ပေါ်ပေါက်သည့်နေ့မှ (၁၄)ရက်အတွင်း စာချုပ်ဝင် တစ်ဖက်သို့ အကြောင်းကြားစာပေးပို့ရမည်၊ ယင်းသို့ အကြောင်းကြားစာပေးပို့ခြင်းကို တစ်ဖက်စာချုပ်ဝင်က လက်ခံသဘောတူမှသာ မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် စာချုပ်ဝင်တစ်ဖက်၏ တာဝန်များကို အခြား စာချုပ်ဝင်တစ်ဖက်၏အတည်ပြုချက်ဖြင့် ထိုသို့ မစွမ်းဆောင်နိုင်မှုဖြစ်ပေါ်လာသည့်ကာလအတွင်း (ထိုကာလထက်လုံးဝမကျော်လွန်စေဘဲ ) ရပ်ဆိုင်းထားရမည်၊ ထို့ပြင်ထိုသို့ မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်ရသည့်အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာဖယ်ရှားပစ်ရမည်။

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"၏ပျက်ကွက်မှု

၁၅။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏ ပျက်ကွက်မှုနှင့် ပတ်သက်၍ လိုက်နာရမည့်အချက်များမှာ-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ယင်း၏တာဝန်ဝတ္တရားများကိုဆောင်ရွက်ရန်ပျက်ကွက်လျှင်ဖြစ်စေ၊ စာချုပ်ပါလုပ်ငန်းကို ဆောင်ရွက်ခြင်းမပြုလျှင်ဖြစ်စေ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ကိုယ်စားလှယ်သည် အဆိုပါ ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သောအချိန်အတွင်း အကောင်းဆုံးပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန်အကြောင်းကြားစာပေးပို့နိုင်သည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏ ပျက်ကွက်မှုကြောင့် စာချုပ်ပွင့် ပြီးစီးရန်သတ်မှတ်ထားသောကာလထက်ကျော်လွန်ပြီးမှလုပ်ငန်းပြီးစီးမှုအတွက် လုပ်ငန်းနှောင့်နှေးကြန့်ကြာရသောရက်များအတွက် ရက်လွန်ဒဏ်ကြေးအဖြစ် (၁) ရက်လျှင် ရင်းနှီးမြှုပ်နှံသည့် စီမံကိန်းတန်ဖိုး စုစုပေါင်း (မြန်မာငွေ+US $)၏ (၀.၁)ရာခိုင်နှုန်းကိုပေးသွင်းရမည်၊ စီမံကိန်းတန်ဖိုးတွက်ချက်ရာတွင် အမေရိကန်ဒေါ်လာတန်ဖိုးကို တရားဝင် ငွေလဲလှယ်နှုန်းဖြင့် တွက်ရန်ဖြစ်သည်။

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် စာချုပ်တွင် သတ်မှတ်ထားသောကာလအတွင်း စာချုပ်ပါလုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ်စိစစ်၍ ထပ်မံလုပ်ကိုင်ခွင့်ပေးရန် မသင့်ဟုယူဆပါက စာချုပ်ပါလုပ်ငန်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ သိမ်းယူခွင့်ရှိသည်။

(ဃ) " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ပဋိညာဉ်စာချုပ်၏ သက်တမ်းကာလအတွင်း လမ်း-တံတားများ အဆင့်မြင့်တင် တည်ဆောက်ခြင်း၊ ပြင်ဆင် ထိန်းသိမ်းခြင်းနှင့် လမ်း-တံတားအသုံးပြုခများကောက်ခံခြင်း စသည့်တို့ကို လမ်းမကြီးများ ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ခြင်းမရှိပါက စာချုပ်ပါလုပ်ငန်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ သိမ်းယူခွင့်ရှိသည်။

ပြောင်းလဲခြင်းများ

၁၆။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည်-

(က) " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ပဋိညာဉ်စာချုပ်သက်တမ်းကာလအတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"အား အဆိုပြုလွှာ တင်သွင်းရန် ညွှန်ကြား၍ဖြစ်စေ၊ လိုအပ်သည့်ညွှန်ကြားချက်များထုတ်ပြန်၍ဖြစ်စေ၊ အခါအားလျော်စွာ ဆောင်ရွက်ပိုင်ခွင့်ရှိသည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ လုပ်ငန်းပြောင်းလဲရေးအတွက် အဆိုပြုလွှာတင်သွင်းရန်ညွှန်ကြားသည့်အခါ တင်ပြလာသည့် အဆိုပြုလွှာအပေါ် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်အတည်ပြုချက်မရရှိမီ ကြိုတင်ဆောင်ရွက်ခြင်းမပြုရ။

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ လုပ်ငန်းပြောင်းလဲဆောင်ရွက်ရေးအတွက် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ " အနေဖြင့် အောက်ဖော်ပြပါအတိုင်းဆောင်ရွက်ရမည်-

(၁) ပြောင်းလဲအဆိုပြုမည့်လုပ်ငန်း အမျိုးအစားအလိုက် အသစ်ပုံစံပြုလွှာ လုပ်ငန်းအစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သောအသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ၏အဆိုပြုလွှာရေးဆွဲတင်ပြခြင်း။

( ၃ ) " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" အနေဖြင့် အဆိုပြုလွှာ လက်ခံရရှိပြီး နောက် (၁၄) ရက်အတွင်းအတည်ပြုအမိန့် (သို့မဟုတ်) ကန့်ကွက်လွှာများ(သို့မဟုတ်) ဆောင်ရွက်ခိုင်းသည့်အမိန့်များ ထုတ်ပြန်ပေးရမည်။

( ၄ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် မိမိ ညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းမဆို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထားဆောင်ရွက်ရမည်၊ မည်သည့်လုပ်ငန်းပြောင်းလဲခြင်းမှ " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏အတည်ပြုချက်မရယူဘဲ ညွှန်ကြားစေခိုင်းခြင်း မပြုရ။

( ၅ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်)ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ကာလ အား ပြန်လည်ပြင်ဆင်သတ်မှတ်ရန် ဆုံးဖြတ်ချက်(သို့မဟုတ်)သဘောတူညီချက် ရရှိအောင် ဆက်လက်ဆောင်ရွက်ပေးရမည်။

ပဋိညာဉ်စာချုပ်ကိုပြင်ဆင်ခြင်းနှင့် ရုပ်စဲခြင်း

၁၇။ အောက်ပါအချက်များပေါ်ပေါက်လာလျှင် ဆောင်ရွက်မည်-

( က ) နိုင်ငံတော်မှ ထပ်မံပြင်ဆင်သတ်မှတ်လိုက်သော ဥပဒေများအရ ဤပဋိညာဉ်စာချုပ်ကို ပြင်ဆင် ဖြည့်စွက်ရန်ကိစ္စရပ်များ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် သဘောတူညီမှုဖြင့် ပြင်ဆင် ဖြည့်စွက်နိုင်သည်။

( ခ ) ပဋိညာဉ်စာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရုပ်စဲနိုင်သည်-

( ၁ ) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ တာဝန်များကို ဆောင်ရွက်ရန် ပျက်ကွက်လျှင်။

( ၂ ) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်တစ်ခုတစ်ရာကို ချိုးဖောက် လျှင်။

( ၃ ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သောမလွန်ဆန်နိုင်သည့် ဖြစ်ရပ်တစ်ခုခုသည် (၆)လ ဆက်တိုက်ပေါ်ပေါက်လျှင်။

( ၄ ) ဤစာချုပ်ကို ရုပ်စဲရန် နှစ်ဦးနှစ်ဖက်သဘောတူလျှင်။

( ဂ ) ဤပဋိညာဉ်စာချုပ်ကို ရုပ်စဲခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် အစိုးရ အဖွဲ့သို့ တင်ပြအတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်အတည်ဖြစ်စေရမည်။

အနညာတစီရင်ဆုံးဖြတ်ခြင်း

၁၈။ " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" တို့အကြား စာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှု တစ်ခုတစ်ရာပေါ်ပေါက်လာပါက ရှေးဦးစွာ နှစ်ဦးနှစ်ဖက်အကြား ကောင်းစွာမျှတသော ပြေလည်မှုရရှိရေး အတွက် ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင်ဆောင်ရွက်ရမည်၊ နှစ်ဦးနှစ်ဖက်အကြား အငြင်းပွားမှုကို ပြေလည်အောင် မဖြေရှင်းနိုင်ပါက ထိုအငြင်းပွားမှုကို အနညာတနည်းအားဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်တွင် ဖြေရှင်းရမည်၊ အနညာတ ခုံလူကြီးတစ်ဦးစီကို စာချုပ်ဝင်တစ်ဖက်စီက ခန့်ထားပြီးထိုအငြင်းပွားမှုကို ဖြေရှင်းပါလျက် အငြင်းပွားမှု မပြီးပြတ်ပါက ခုံလူကြီးနှစ်ဦးက နောက်ဆုံးအဆင့် ခုံသမာဓိလူကြီး (Umpire) တစ်ဦးကို နှစ်ဦး သဘောတူရွေးချယ် ဆုံးဖြတ်စေရမည်၊ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) ခုံသမာဓိလူကြီး ဆုံးဖြတ်ချက်သည်

အပြီးအပြတ် ဖြစ်စေရမည့် အပြင် နစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်၊ အနုညာတခုံဖြင့် ဆောင်ရွက်ရာတွင် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံစီရင်ဆုံးဖြတ်ခြင်း အနုညာတ အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေ အမှတ်-၄/၁၉၄၄) နှင့် နောက်ပိုင်း ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီဆောင်ရွက်ရမည်၊ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

ပဋိညာဉ်ပြီးဆုံးခြင်း

၁၉။ ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ အပြည့်အဝ ပြီးဆုံးအောင် ဆောင်ရွက်ပြီးစီးသည့်အခါမှသာ ပဋိညာဉ် ပြီးဆုံးသည်ဟု မှတ်ယူရမည်။

လွှဲပြောင်းပေးခြင်း

၂၀။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ဤပဋိညာဉ်စာချုပ်အရ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလ နှစ်(၄၀) (သို့မဟုတ်)လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်သော ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ၊ ဂိတ်များ နှင့် အဆောက်အအုံများကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသောကောင်းမွန်သည့် အနေအထား အတိုင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"အား အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည်။

စာချုပ်၏ အစိတ်အပိုင်းများ

၂၁။ ဤစာချုပ်ပါ နောက်ဆက်တွဲများသည် စာချုပ်၏ အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

**ဆက်သွယ်ရန်လိပ်စာများ**

၂၂။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန် လိပ်စာမှာအောက်ပါအတိုင်းဖြစ်သည်-

ဆောက်လုပ်ရေးဝန်ကြီးဌာန
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
ရုံးအမှတ် (၁၁)
နေပြည်တော်

နှင့်

မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
အမှတ် (၂၆)၊ မြေညီထပ်၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်ကွက်၊
မြိတ်မြို့၊ တနင်္သာရီတိုင်းဒေသကြီး

ပဋိညာဉ်စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့နှင့်သက်တမ်းကာလ

၂၃။ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည်-

( က ) ဤပဋိညာဉ်စာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်တရားဝင် အတည်ပြုလက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

( ခ ) ဤပဋိညာဉ်စာချုပ်၏ သက်တမ်းကာလမှာနှစ် (၄၀) ဖြစ်ပြီး သက်တမ်းကိုရေတွက်ရာတွင် ခွင့်ပြုသတ်မှတ်ပေးထားသည့် လုပ်ငန်းကာလ (၃)နှစ်အထိ ပဋိညာဉ်စာချုပ် အပိုဒ် ၂ ပါ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အပြီးဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းကာလ (၃) နှစ်ထက်စော၍ ပြီးစီးပြီး လုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီးစီးမှုလက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ်အနက် စောရာနေ့ရက်ကာလမှ စတင်ရေတွက်သတ်မှတ်ရမည်။

( ဂ ) ပဋိညာဉ်သက်တမ်းကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်သက်တမ်းကာလ မစေ့ရောက်မီ (၆) လကြိုတင်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံတင်ပြ၍ နှစ်ဖက်သဘောတူပါက (၁) ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃) ကြိမ် တိုးမြှင့်နိုင်သည်။

စာချုပ်လက်မှတ်ရေးထိုးခြင်း

၂၄။ ဤစာချုပ်ဝင်များသည် ဤစာချုပ်ပါစည်းကမ်းချက်များကိုကိုယ်တိုင်ဖတ်ရှုသိရှိပြီး အောက်ပါအသိသက်သေများရှေ့မှောက်၌ ၂၀၁၄ ခုနှစ်၊ လ ( ) ရက်နေ့တွင် ဤစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ<br>(ကိုယ်စား) | လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ<br>(ကိုယ်စား) |
| ( ဦးကျော်လင်း )<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း | ( ဦးလှသန်း )<br>ဥက္ကဋ္ဌ<br>နိုင်ငံသားစိစစ်ရေးကဒ်အမှတ်----------------<br>မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် |

သက်သေများ

| | |
|---|---|
| အမည် -------------------- | အမည် -------------------- |
| မှတ်ပုံတင်အမှတ် -------------- | မှတ်ပုံတင်အမှတ် -------------- |
| ရာထူး -------------------- | ရာထူး -------------------- |

ကန့်သတ်

မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်

မြိတ်မြို့

# တနင်္သာရီ-မော်တောင်လမ်း

# ဖောက်လုပ်ရေးစီမံကိန်း

တနင်္သာရီ-တုံခါ-သိမ်ခွန်း-သဲဖြူ-မော်တောင် လမ်းအပိုင်း၏

အဆင့်မြှင့်တင်ဖောက်လုပ်ခြင်းလုပ်ငန်း

စီမံချက်

၂၀၁၄ ခုနှစ်၊ ဇွန်လ ( ၁၅ )ရက်

ကန့်သတ်

မာတိကာ

မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်
မြိတ်မြို့

## တနင်္သာရီ–မောတောင်လမ်း ဖောက်လုပ်ရေးစီမံကိန်း

## တနင်္သာရီ–တုံခါ–သိမ်ခွန်း–သဲဖြူ–မောတောင်လမ်းအပိုင်းအားအဆင့်မြှင့်တင်ဖောက်လုပ်ခြင်းလုပ်ငန်း

## စီမံချက်

### စီမံကိန်းအမည်

၁။ တနင်္သာရီ–မောတောင်လမ်းဖောက်လုပ်ရေးစီမံကိန်း (တနင်္သာရီ–တုံခါ–သိမ်ခွန်း–သဲဖြူ–မောတောင်လမ်းအပိုင်း)။

### ရည်ရွယ်ချက်

၂။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်ကြီး ခေတ်မီဖွံ့ဖြိုးတိုးတက်လာစေရန် ဘက်စုံကဏ္ဍစုံမှ ပွင့်လင်းမြင်သာသော အပြောင်းအလဲများ၊ အခြေခံကောင်းများ မူဝါဒများ ချမှတ်လျက် ခေတ်မီဖွံ့ဖြိုးတိုးတက်ပြီး စည်းကမ်းပြည့်ဝသည့် ဒီမိုကရေစီနိုင်ငံတော်ဖြစ်ထွန်းလာစေရန် အရှိန်အဟုန်ဖြင့် ကြိုးပမ်းတည်ဆောက်လျက်ရှိပါသည်။

၃။ လမ်းနှင့်တံတားများ ပိုမိုကောင်းမွန်စေခြင်းဖြင့် ပြည်နယ်ပြည်မ မခြား တပြေးညီ ဖွံ့ဖြိုးတိုးတက်စေရေး၊ တိုင်းရင်းသားအချင်းချင်း လွယ်ကူစွာဆက်သွယ်သွားလာနိုင်ခြင်းဖြင့် ပြည်ထောင်စုစိတ်ဓာတ် စည်းလုံးညီညွတ်မှု ပိုမိုခိုင်မာစေရေး၊ ကုန်စည်စီးဆင်းမှုမှန်ကန်မြန်ဆန်စေရေး၊ လမ်းပန်းဆက်သွယ်မှု လုံခြုံချောမွေ့စေရေးတို့အတွက် အထောက်အကူပြု အကျိုးဖြစ်ထွန်းမည် ဖြစ်ပါသည်။

### ရည်ညွှန်းချက်

၄။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ [illegible] ဖြစ်ပါသည်။

### တည်နေရာ

၅။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်အတွင်း တည်ရှိပါသည်။ တည်နေရာပြ မြေပုံကို နောက်ဆက်တွဲ(က)ဖြင့် တင်ပြအပ်ပါသည်။

လုပ်ငန်းအမည်

၆။ တနင်္သာရီ–တုံခါ–သိမ်ခွန်း–သဲဖြူ–မောတောင်လမ်းအပိုင်းကို အဆင့်မြှင့်တင်ဖောက်လုပ်ခြင်း လုပ်ငန်းဖြစ်ပါသည်။

၇။ တနင်္သာရီ–တုံခါ–သိမ်ခွန်း–သဲဖြူ–မောတောင်လမ်း အဆင့်မြှင့်တင်ဖောက်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ် –

| | | |
|---|---|---|
| (က) တနင်္သာရီ–တုံခါအပိုင်း | – | ၅၀/၅ မှ ၅၆/၀ အထိ ကျောက်ခင်းလမ်း (၅/၃)မိုင် |
| | – | ၅၆/၀ မှ ၆၈/၄ အထိ မြေသားလမ်း (၁၂/၄)မိုင် |
| (ခ) တုံခါ–သိမ်ခွန်း–သဲဖြူအပိုင်း | – | ၆၈/၄ မှ ၇၂/၀ အထိ ကျောက်ခင်းလမ်း (၃/၄)မိုင် |
| | – | ၇၂/၀ မှ ၈၄/၀ အထိ မြေသားလမ်း (၁၂/၀)မိုင် |
| စုစုပေါင်း | – | (၃၃/၃)မိုင် |
| (ဂ) သဲဖြူမှ မောတောင်လမ်းအပိုင်း | – | ၈၄/၀ မှ ၁၀၅/၆ အထိ ကျောက်ခင်းလမ်း (၂၁/၆)မိုင် |
| | – | ၁၀၅/၆ မှ ၁၂၀/၀ အထိ ကနေရာလမ်း (၁၄/၂)မိုင် |
| စုစုပေါင်း | – | (၃၆/၀)မိုင် |

[illegible] (၃၃/၃)မိုင် နှင့် သဲဖြူမှ မောတောင်[illegible] (၆၉/၃)မိုင်ဖြစ်ပါသည်။

လက်ရှိလမ်းအခြေအနေ [illegible] နောက်ဆက်တွဲ(ခ)ဖြင့် တင်ပြထားပါသည်

| | | |
|---|---|---|
| (က) တနင်္သာရီ–တုံခါ[illegible] | – | [illegible] မှ ၅၆/၀ အထိ ကျောက်ခင်းလမ်း (၅/၃)မိုင် |
| | – | ၅၆/၀ မှ ၆၈/၄ အထိ မြေသားလမ်း (၁၂/၄)မိုင် |
| စုစုပေါင်း | – | (၁၇/၇)မိုင် |

ဤလမ်းပိုင်းသည် တနသ်ာရီ-ဘုတ်ပြင်းလမ်းပိုင်းဖြစ်ပြီး ယခုအခါ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်မှ မြေထိုးမြေသယ်ယာဉ်၊ စက်ယန္တရားကြီးများ အသုံးပြု၍ အကျယ်(၄၀)ပေရှိ အမာခံမြေသားလမ်းအဖြစ် ပြန်လည်ပြုပြင်ခင်းကြိတ် လျက်ရှိပြီး၊ မိုးတွင်းကာလသွားလာနိုင်သောလမ်းအဆင့်ရောက်သည်အထိ မြေသား လုပ်ငန်းများဆောင်ရွက်လျက်ရှိပါသည်။

(ခ) တုံခါ-သိမ်ခွန်း-သဲဖြူလမ်း အပိုင်း - ၆၈/၄ မှ ၇၂/၀ အထိ
ကျောက်ခင်းလမ်း (၃/၄)မိုင်
- ၇၂/၀ မှ ၈၄/၀ အထိ
မြေသားလမ်း (၁၂/၀)မိုင်

**စုစုပေါင်း - (၁၅/၄)မိုင်**

ဤလမ်းအပိုင်းတွင် ယခင် ကျောက်ခင်းလမ်း(၃/၄)မိုင်နှင့် မြေသားလမ်း(၁၂/၀) မိုင်၊ စုစုပေါင်း(၁၅/၄)မိုင်ရှိပြီး ယခုအခါ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်မှ စက်ယန္တရားကြီးများအသုံးပြု၍ အကျယ်(၄၀)ပေရှိသော အမာခံမြေသားလမ်းအဖြစ် အပြီးသတ်ဖောက်လုပ်ပြီး ဖြစ်ပါသည်။

(ဂ) သဲဖြူမှ မောတောင်လမ်းအပိုင်း - ၈၄/၀ မှ ၁၀၅/၆ အထိ
ကျောက်ခင်းလမ်း (၂၁/၆)မိုင်
- ၁၀၅/၆ မှ ၁၂၀/၀ အထိ
ကတ္တရာလမ်း (၁၄/၂)မိုင်

**စုစုပေါင်း - (၃၆/၀)မိုင်**

ဤလမ်းအပိုင်းတွင် ယခင်လက်ရှိ ကျောက်ခင်းလမ်း(၂၁/၆)မိုင်ကို စက်ယန္တရားများ အသုံးပြု၍ အကျယ်(၄၀)ပေရှိသော အမာခံမြေသားလမ်းအဖြစ် ပြန်လည်ပြုပြင်ဆောင်ရွက်လျက်ရှိပါသည်။

၉။ မြေသားတာတောင်လုပ်ငန်းဆောင်ရွက်ရာတွင် စံပြုလက်မှတ်ထားသော ပြတ်ပိုင်းပုံ(၃)ခု အတိုင်းဆောင်ရွက်မည်ဖြစ်ပြီး နောက်ဆက်တွဲ(ဂ)တွင် ဖော်ပြထားပါသည်။

၁၀။ ဤလမ်းအပိုင်းကို မူလကအလွယ်တကူသွားလာနိုင်စေခြင်းငှာ သစ်လုံးသယ်မော်တော်ယာဉ် လမ်းအတိုင်းမြေသားတင်ဆောင်ရွက်ခဲ့သော်လည်း ဤစီမံကိန်းမှာ အာဆီယံလမ်းပုံစံချိန်မီဆောင်ရွက်ရန် လိုအပ်မည်ဖြစ်သဖြင့် လမ်းအကွေ့ကြောင်းများ ဖြောင့်တန်းခြင်း၊ လမ်းကွေ့နှင့်ကုန်းတက်ကုန်းဆင်းများကို ရုံးချုပ်အဖွဲ့ဖြင့် မြေတိုင်းကိရိယာများအသုံးပြုတိုင်းတာပြီး ဖြစ်ပါသည်။

၁၁။ တနင်္သာရီ–ဘုတ်ပြင်းလမ်းအပိုင်း ကုံခါလမ်းခွဲ(၆၅/၄)မှစ၍ တုံခါရွာ၊ သိမ်ခွန်းရွာ၊ သဲဖြူရွာ များကိုဖြတ်လျက် မောတောင်အထိ (၁၂၀/၀)လမ်းအပိုင်းတွင် တုံခါလမ်းခွဲမှ တုံခါရွာအထိ လမ်းအပိုင်း ကို အကျဉ်းဦးစီးဌာနပိုင် လယ်မြေအချို့နှင့် ထုံခါရွာအနီး ဥယျာဉ်ခြံအချို့ကို ဖြတ်သန်းလျက်ရှိပါသည်။ လမ်းအူကြောင်းရွေးချယ်၍ လုပ်ငန်းများဆောင်ရွက်ပြီးဖြစ်ပါသည်။

၁၂။ တုံခါရွာမှ ချောင်းနှစ်ပေါက်တံတားအထိ လမ်းအပိုင်းတွင် ရွှေကမ္ဘောဇဆီအုန်းခြံမှ ဆီအုန်းပင် အချို့ကို ရွှေ့ပြောင်းပေးလျက်ရှိပြီး လမ်းအူကြောင်းအသစ်များ တိုင်းတာ၍ လမ်းဖောက်လုပ်ပြီး ဖြစ်ပါသည်။

၁၃။ ချောင်းနှစ်ပေါက်တံတားမှ သိမ်ခွန်းရွာအထိ လမ်းအပိုင်းကို လမ်းအူကြောင်းအသစ်ဖြင့် လမ်းတာဘောင်မြေဖို့ထားပါသည်။ ရာဘာပင်နှင့် ဥယျာဉ်ခြံငယ်အချို့ကို ဖြတ်သန်းဖောက်လုပ်ထား ပါသည်။

၁၄။ သိမ်ခွန်းမှ သဲဖြူရွာအထိ လမ်းအပိုင်းကို လတ်တလောသွားလာနိုင်သော မြေရော ကျောက်စရစ်လမ်း ဆောင်ရွက်ပြီးဖြစ်ပါသည်။ လမ်းကွေ့နှင့် လမ်းအတက်အဆင်းပြေပြစ်မှုမရှိသဖြင့် လမ်းအူကြောင်းအသစ်ပြုပြင်၍ ဆောင်ရွက်ပြီးဖြစ်ပါသည်။

၁၅။ နေကျော်မှ မောတောင်အထိ လမ်းအပိုင်းကို ပေါက်နေသော ကတ္တရာလမ်းများ ဖာထေး ပြုပြင်ပြီးဖြစ်ပါသည်။

၁၆။ ချောင်းနှစ်ပေါက်တံတားပေအရှည်(၂၈၀)ခန့်အား ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ကူညီပံ့ပိုးမှု ဖြင့် ဘေလီသံဘောင်တံတားအဖြစ် ဆောင်ရွက်ပြီးဖြစ်ပါသည်။

၁၇။ ကျန်ရှိလမ်းအပိုင်းများတွင် (၁၀)ပေခန်းဖွင့် သစ်သားတံတား(၂)စီးနှင့် (၄)ပေ ရေပြွန်(၄၄)ခု တို့ကိုလည်း တည်ဆောက်ပြီးဖြစ်ပါသည်။

တနင်္သာရီ–တုံခါ–သိမ်ခွန်း–သဲဖြူ–မောတောင် [illegible] လုပ်ငန်းလုပ်ငန်း ဆောင်ရွက်ပြီးစီးမှုအခြေအနေ

၁။ လမ်းအဆင့်မြှင့်တင်ဖောက်လုပ်ခြင်းလုပ်ငန်း [illegible] ဆောင်ရွက် ရောက်ရှိရာ ယခုအခါ (၉၇)ခန့်ပြီးစီးပြီးဖြစ်ပါ [illegible]

၂။ ၂၀၁၄ ခုနှစ်၊ မေလကုန်တွင် ကျောက်ခင်း [illegible] ဆောင်ရွက်ခဲ့ပြီး ၂၀၁၄–၂၀၁၅ ဘဏ္ဍာရေးနှစ်တွင် ကတ္တရာလမ်းအဖြစ် အပြီးဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၃။ လုပ်ငန်းအဆင့်ဆင့်ဆောင်ရွက်ပြီးစီးမှု [illegible] များကို နောက်ဆက်တွဲ(ဃ)ဖြင့် သိရှိနိုင်ပါသည်။

၄။ ကျောက်ကျင်းတည့်နေရာပြမြေပုံကို နောက်ဆက်တွဲ [illegible] ဖြင့် သိရှိထားပါသည်။

၂၂။ ဝန်ထမ်းအင်အားစာရင်းကို နောက်ဆက်တွဲ(စ)ဖြင့် တင်ပြထားပါသည်။

၂၃။ စက်ယာဉ်ယန္တရားအင်အားစာရင်းကို နောက်ဆက်တွဲ(ဆ)ဖြင့် တင်ပြထားရှိပါသည်။

**အထွေထွေ**

၂၄။ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်သည် ယခုအခါ အစုရှယ်ယာဝင်ပေါင်း(၁၇၉)ဦးခန့်တို့၏ မတည်ရင်းနှီးငွေကျပ်သိန်းပေါင်း (၃၈၆၆၅)ဖြင့် စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

**နိဂုံး**

၂၅။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ကမ်းရိုးတန်းဒေသတောင်ဘက်ဆုံးအပိုင်းဖြစ်သဖြင့် မြန်မာနိုင်ငံတော်ကြီးကို အောက်ဆုံးမှ ထောက်မသွားနိုင်သည်အထိ တနင်္သာရီတိုင်းဒေသကြီးဖွံ့ဖြိုးတိုးတက်စေရန် မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်မှ စွမ်းစွမ်းတမံကြိုးပမ်းဆောင်ရွက်လျက်ရှိပါကြောင်း တင်ပြလျက် လမ်းညွှန်မှုကို ခံယူအပ်ပါသည်။

Kyaw Myo Ph...
Office Manager
Myeik Public Corporati...

နောက်ဆက်တွဲ(ခ-၁)

## တနသ်ာရီ–ထုံစါ–သိမ်စွန်း–သဲဖြူအပိုင်း၊ မိုင် ၅၀/၅ – ၈၄/၀ (၃၃ မိုင် ၃ ဖာလုံ)




**လမ်းအမျိုးအစား**

- ကျောက်လမ်း - ( ၈) မိုင် ( ၇ ) ဖာလုံ
- မြေလမ်း - (၂၄) မိုင် ( ၄ ) ဖာလုံ
- စုစုပေါင်း - (၃၃) မိုင် ( ၃ ) ဖာလုံ

နောက်ဆက်တွဲ(ခ-၂)

## သဲဖြူ–မောစတောင် အပိုင်း၊ မိုင် ၈၄/၀ – ၁၂၀/၀ (၃၆ မိုင် ၀ ဖာလုံ)



**လမ်းအမျိုးအစား**

- ကတ္တရာလမ်း - (၁၄) မိုင် ( ၂ ) ဖာလုံ
- ကျောက်လမ်း - (၂၁) မိုင် ( ၆ ) ဖာလုံ
- စုစုပေါင်း - (၃၆) မိုင် ( ၀ ) ဖာလုံ

နောက်ဆက်တွဲ




Cross Section of Tanintharyi- Theinkhen- Mawthaung Road
(Tanintharyi- Bokpyin - Kawthaung Road Portion)



Cross Section of Tanintharyi- Theinkhon- Mawthaung Road

(Filling Section at Flooded Area)

နောက်ဆက်တွဲ (၈-၃)




Cross Section of Tanintharyi- Theinkhon- Mawthaung Road

(One Side Cutting)

တနင်္သာရီ - မော်တောင်လမ်း စီမံကိန်း
ကျောက်မိုင်း တည်နေရာပြပုံ နှင့် ကျောက်ထုတ်လုပ်နိုင်မှု






## MANPOWER PLANING ON PROJECT

| Item no | Description | Requirement | [illegible] | Remark |
|---|---|---|---|---|
| 1 | 2 | 3 | 4 | 5 |
| 1 | Project Engineer | 1 | 1 | |
| 2 | Civil Engineer | 3 | 3 | |
| 3 | Mechanical Engineer | 3 | 1 | |
| 4 | Surveyer | 3 | 1 | |
| 5 | Store Keeper | 3 | 1 | |
| 6 | Time Keeper | 3 | 3 | |
| 7 | Operator | 31 | 10 | |
| 8 | Driver | 30 | 13 | |
| 9 | Mechanie | 12 | 3 | |
| 10 | Labour | 60 | 10 | |
| 11 | Mason | 30 | [illegible] | |
| [illegible] | [illegible] | [illegible] | [illegible] | |
| | [illegible] | | | |

# EQUIPMENT PLANING ON PROJECT

| Item no | Type | Description | | | Required Quantity | Received | Remark |
|---|---|---|---|---|---|---|---|
| | | Name | Model | Capacity | | | |
| 1 | 2 | 3 | | | 4 | 5 | 6 |
| 1 | Bull Dozer | Komatsu | | 360 HP | 2 | | |
| 2 | Bull Dozer | CAT | | 160 HP | 3 | | |
| 3 | Excavator | Komatsu | P.C.200 | 140 HP | 4 | 12 | |
| 4 | Excavator (Power Shovel) | Komatsu | | 274 HP | 3 | | |
| 5 | Pay Loader | CAT | | | 3 | | |
| 6 | Motar Grader | CAT | | 150 HP | 3 | 1 | |
| 7 | Vibrating Roller | SAKAI | | 160 HP | 3 | 1 | |
| 8 | Dump Truck | Various | | 190 HP | 12 | 25 | |
| 9 | Water Dozer | Various | | | 3 | - | |
| 10 | Sheep Foot Roller | CAT | 825 | 350 HP | 1 | | |
| 11 | Fuel Bowzer | Various | | | 2 | | |
| [illegible] | [illegible] | Various | | | [illegible] | [illegible] | |
| [illegible] | | [illegible] | | | | | |

**MYAWADDY BANK**

**Myeik Branch**

No.E/53, Pyi Taw Thar Street, Seik Nge Quarter, Myeik.

Ph : 059-42419,42421
Fax :

Page ( 1 )

Account No : C212M0101010110M
1 > Name : TUN TUN WIN (U) (-)
2 > Name : HLA THAN (U) (-)
3 > Name : SAN MYINT (U) (-)
4 > Name : MYEIK PUBLIC CORPORATION LTD ()
Address : NO(26), KANNAR ROAD,, DAWEIZU QTR, MYEIK, MYEIK, TANINTHARYI, MYANMAR

| SNo | Date | Cheque No | T/T | T/C | Debit Amount | Credit Amount | Balance |
|---|---|---|---|---|---|---|---|
| | 01/04/2014 | Balance B/F | | | | | 2,042,875. |
| | 30/04/2014 | Balance | | | | | 2,042,875.( |

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| 2,042,875.00 | + | 0.00 | - | 0.00 | = | 2,042,875.00 |

No. of Withdrawals = 0
No. of Deposit = 0

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correect.

CH = Cash
TR = Transfer
CL = Clearing
T/T = Type of Transaction

FOR MYAWADDY BANK LTD

MANAGER
ACCOUNTS DEPARTMENT



Kanbawza Bank (Myeik)
NO(13/B) PYI TAW THAR STREET, SEIK NGE MYO MA QUARTER
Ph : 41405
Fax : 41781,41890-

Date : 06 May , 2014

ACCOUNT NO. : 0121130000220

NAME : MYEIK PUBLIC CORPORATION
NRC :
ADDRESS : NO.26,KANNAR ST,DAWEI SU QTR
MYEIK
PHONE : 41728

## Statement Of Transaction For The Date Between 01/04/2014 And 30/04/2014

| Date_Time | Description | Withdrawal Amount | Deposit Amount | Balance |
|---|---|---|---|---|
| 01 / 04 / 2014 | Opening Balance | | | 8,101,000.0 |
| 30 / 04 / 2014 | Closing Balance | | | 8,101,000.0 |

No. of Withdrawals : 0
No. of Deposits : 0

Thank You For Banking With Kanbawza Bank (Myeik)

Please report any descrepencies found on your statement immediately.
N.B - Statement will not be sent unless there is a change of transaction.

For Kanbawza Bank (Myeik)

Asst: / DY: Manager

| | | | | | |
|---|---|---|---|---|---|
| 1 | 02-01-2014 | CHD | 537,900.00 | 0.00 | 648,153,002.00 |
| 2 | 21-01-2014 | CHD | 1,500,000.00 | 0.00 | 649,653,002.00 |
| 3 | 23-01-2014 | CHW | 0.00 | 20,000,000.00 | 629,653,002.00 |
| 4 | 05-02-2014 | CHW | 0.00 | 10,000,000.00 | 619,653,002.00 |
| 5 | 05-02-2014 | ERC | 10,000,000.00 | 0.00 | 629,653,002.00 |
| 6 | 05-02-2014 | CHW | 0.00 | 100,000,000.00 | 529,653,002.00 |
| 7 | 15-02-2014 | TRW | 0.00 | 34,291,000.00 | 495,362,002.00 |
| 8 | 10-02-2014 | CHD | 1,670,000.00 | 0.00 | 497,032,002.00 |
| 9 | 14-02-2014 | CHW | 0.00 | 15,000,000.00 | 482,032,002.00 |
| 10 | 21-02-2014 | CHW | 0.00 | 15,000,000.00 | 467,032,002.00 |
| 11 | 04-03-2014 | CHW | 0.00 | 350,000,000.00 | 117,032,002.00 |
| 12 | 06-03-2014 | CHW | 0.00 | 55,000,000.00 | 62,032,002.00 |
| 13 | 10-03-2014 | CHW | 0.00 | 31,000,000.00 | 31,032,002.00 |
| 14 | 17-03-2014 | CHW | 0.00 | 25,000,000.00 | 6,032,002.00 |
| 15 | 31-03-2014 | INT | 7,351,446.71 | 0.00 | 13,383,448.71 |
| 16 | | | | | |
| 17 | | | | | |
| 18 | | | | | |
| 19 | | | | | |
| 20 | | | | | |

AYEYARWADY BANK
Your trusted partner

Max7 Reporting System
Print date: 06/05/2014 14:23 PM

# DEPOSIT STATEMENT

From: 06/04/2014 To: 06/05/2014

Account No: 0018224010000272

Currency: MMK

Name: *MYEIK PUBLIC CORPORATION CO,LTD/U HLA THAN/U TUN TUN WIN/U SAN MYINT*

NRC : *3078 # 06/-MA-AH-YA-(N)-057303 # 06/MAAHYA(N)000618 # 06/-MA-AH-YA-(N)-040722*

Address: *NO-26 , KANNAR ST,DAWEISU QRT; # MYEIK PUBLIC CORORATION LIMITED # NO.33,KANNAR ST, - MYEIK MYEIK TANINTHARYI # MYEIK PUBLIC CORPORATION COMPANY LIMITED*

| No | Date | Cheque | T/T | T/C | Debit | Credit | Balance |
|---|---|---|---|---|---|---|---|
| | | | | | | BF | 1,043,333,230.89 |
| 1 | 07/04/2014 | | CH | CD | 0.00 | 2,672,000.00 | 1,046,005,230.89 |
| 2 | 07/04/2014 | | CH | CWC | 315,000,000.00 | 0.00 | 731,005,230.89 |
| 3 | 07/04/2014 | | CH | CWC | 25,589,700.00 | 0.00 | 705,415,530.89 |
| 4 | 08/04/2014 | | CH | CWC | 48,553,200.00 | 0.00 | 656,862,330.89 |
| 5 | 10/04/2014 | | CH | CD | 0.00 | 10,000,000.00 | 666,862,330.89 |
| 6 | 10/04/2014 | | CH | CWC | 14,800,000.00 | 0.00 | 652,062,330.89 |
| 7 | 23/04/2014 | | CH | CWC | 38,200,000.00 | 0.00 | 613,862,330.89 |
| 8 | 25/04/2014 | | CH | CD | 0.00 | 1,000,000.00 | 614,862,330.89 |
| 9 | 25/04/2014 | | CH | CWC | 25,960,000.00 | 0.00 | 588,902,330.89 |
| 10 | 28/04/2014 | | CH | CD | 0.00 | 10,000,000.00 | 598,902,330.89 |
| 11 | 28/04/2014 | | CH | CWC | 115,000,000.00 | 0.00 | 483,902,330.89 |
| 12 | 29/04/2014 | | CH | CWC | 21,400,000.00 | 0.00 | 462,502,330.89 |
| 13 | 30/04/2014 | | CH | CD | 0.00 | 85,995,000.00 | 548,497,330.89 |
| 14 | 30/04/2014 | | CH | CWC | 16,500,000.00 | 0.00 | 531,997,330.89 |
| 15 | 30/04/2014 | | TR | INT | 0.00 | 4,564,675.82 | 536,562,006.71 |
| 16 | 05/05/2014 | | CH | CWC | 15,000,000.00 | 0.00 | 521,562,006.71 |
| 17 | 06/05/2014 | | CH | CD | 0.00 | 2,171,000.00 | 523,733,006.71 |
| | | | | | | Balance | 523,733,006.71 |

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| 1,043,333,230.89 | + | 116,402,675.82 | - | 636,002,900.00 | = | 523,733,006.71 |

No. of Withdrawals = 10

No. of Deposit =7

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correct

CH = Cash

TR = Transfer

CL = Clearing

T/T = Type of Transaction




**မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်**
**အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့**
**ဖုန်း- ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)နံပါတ်-၀၅၉ ၄၂၂၆၃**

## မီးဘေးလုံခြုံရေးစီမံချက်

### ၁။ ရည်ရွယ်ချက်

မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (**Myeik Public Corporation Limited.**) သည် တနင်္သာရီ-ထုံခါ-သဲဖြူ-မော်တောင်လမ်း(၆၉/၃)မိုင်ကို **BOT** စနစ်ဖြင့် အဆင့်မြှင့်တင် ဖောက်လုပ်ခြင်း လုပ်ငန်းလုပ်ကိုင်ရာတွင် မလိုလားအပ်သော မီးဘေးအန္တရာယ်ကြောင့် ငွေကြေးနှင့်အခြား ဆုံးရှုံးမှုများ မဖြစ်စေရေးအတွက် ထိရောက်သော ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်သွားရန် ရည်ရွယ် ပါသည်။

### ၂။ လုပ်ငန်းတည်နေရာ

ဂိတ်အမှတ်(၁) ။ တနင်္သာရီ-ထုံခါ-သဲဖြူ-မော်တောင်လမ်း(၆၉/၃)မိုင်

### ၃။ လုပ်ငန်းတာဝန်

ရည်ရွယ်ချက်အား အောင်မြင်စွာအကောင်အထည်ဖော်နိုင်ရန် အောက်ပါလုပ်ငန်းတာဝန်များ လိုက်နာဆောင်ရွက်သွားရမည်ဖြစ်သည် -

(က) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးလုပ်ငန်း၊

(ခ) မီးငြိမ်းသတ်ရေးလုပ်ငန်း

(ဂ) ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

### ၄။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးလုပ်ငန်း

ကြိုတင်ကာကွယ်ရေးလုပ်ငန်းသည် အခြေခံအကျဆုံးနှင့် အထိရောက်ဆုံးလုပ်ငန်းဖြစ်၍ အောက်ပါညွှန်ကြားချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရန်၊ အချိန်အခါနှင့်အခြေအနေအရ ဖြည့်စွက်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားရန် ဖြစ်သည်။

(က) မီးလောင်စေနိုင်သော အခြေအနေများကို ဖယ်ရှားတားမြစ်ရန်၊

(ခ) **Toll Gate** နှင့် အဆောက်အဦပတ်ဝန်းကျင်တွင် မီးလောင်စေနိုင်သည့် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များ၊ အမြဲသန့်ရှင်းအောင် ရှင်းလင်းထားရန်၊

(ဂ) လောင်စာဆီများကို သတ်မှတ်ကန့်သတ်ချက်နည်းလမ်းအတိုင်း စနစ်တကျသိုလှောင်ခြင်း၊ ဖြည့်တင်းခြင်း၊ အသုံးပြုခြင်းနှင့် စွန့်ပစ်ခြင်းများပြုလုပ်ရန်။

(ဃ) လျှပ်စစ်သွယ်တန်းအသုံးပြုခြင်းကို မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ပြဋ္ဌာန်းချက်များ၊ နည်းပညာများအတိုင်း တပ်ဆင်အသုံးပြုသွားရန်။

(င) အဆောက်အဦတွင် မြေစိုက်ကြိုးများနှင့် မိုးကြိုးလွှဲများ တပ်ဆင်ရန်။

(စ) မီးဘေးကြိုတင်ကာကွယ်ရေး၊ မီးငြိမ်းသတ်ရေးအဖွဲ့များ ဖွဲ့စည်းထား၍ နည်းပညာပေးသင်တန်းများပို့ချပေးရန်။

(ဆ) မီးသတ်ဗူးများ၊ မီးသတ်ရေပိုက်ခေါင်းများ၊ ရေလှောင်ကန်များ ထားရှိရန်။

## ၅။ မီးငြိမ်းသတ်ရန် ကြိုတင်လုပ်ငန်းများ

မီးလောင်မှုမဖြစ်ပွားရေးအတွက် ကြိုတင်ကာကွယ်ရေးနှင့် မီးလောင်မှုဖြစ်ပွားလာပါက အောက်ပါအတိုင်း လုပ်ငန်းများကို စနစ်တကျလိုက်နာဆောင်ရွက်သွားရမည် -

(က) Toll Gate အဆောက်အဦနှင့် လိုအပ်သောနေရာတိုင်းတွင် မီးသတ်ဆေးဗူးများ၊ ရေပုံး၊ မီးသတ်ပိုက်လိုင်းများ ထားရှိရမည်။

(ခ) မီးလှန့်အချက်ပေးသည့်စနစ်ကို သတ်မှတ်ထားရမည်။

(ဂ) မီးလောင်လျှင် ဦးစားပေးငြိမ်းသတ်ရေးကို သတ်မှတ်ရမည်။

(ဃ) မီးဘေးလုံခြုံရေးဝန်ထမ်းကို နေ့စဉ်တာဝန်ချထားရမည်။

(င) မီးလောင်မှုဖြစ်ပွားပါက အောက်ပါတို့ကို ချက်ချင်းအရေးတကြီးပြုလုပ်ရမည် -

(၁) အချက်ပေးခေါင်းလောင်းခေါက်ခြင်း၊

(၂) မီးသတ်ဦးစီးဌာနသို့ အမြန်ဆုံးမီးသတ်ကား လာရောက်ငြိမ်းသတ်နိုင်ရန် လမ်းညွှန်အကြောင်းကြားခြင်း၊

(၃) ဦးစားပေးပစ္စည်းများ မီးလွတ်ရာသို့ ရွှေ့ပြောင်းခြင်း၊

(၄) မီးငြိမ်းသတ်ခြင်း။

## ၆။ ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

အကယ်၍ မီးလောင်မှုကြောင့် လူနှင့်စက်ပစ္စည်းများကို အရေးပေါ် ပြောင်းရွှေ့မှုများ ပြုလုပ်ခဲ့ရသဖြင့် ထိခိုက်မှု၊ ဆုံးရှုံးမှုများရှိပါက တာဝန်ရှိကြီးကြပ်သူများသို့ တင်ပြ၍ နေရာချထားပေးခြင်း၊

ဆေးပေးခန်း၊ ဆေးရုံသို့ ပို့ဆောင်၍ ဆေးကုသမှုခံယူစေခြင်းနှင့် ကူညီထောက်ပံ့မှုပေးခြင်းတို့ကို ဆောင်ရွက်ပါမည်။

Soe Win
Managing Director
Myeik Public Corporation

Drugswar/BOT/simichat/mal 15





# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့

ဖုန်း– ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း–၀၅၉ ၄၂၂၆၃


## အခွန်ငွေပေးဆောင်ရန်နှင့်ပတ်သက်၍ ကတိဝန်ခံချက်

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited)** သည် တနင်္သာရီ-မောတောင်လမ်း၏တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်ကို BOT စနစ်ဖြင့် အဆင့်မြှင့်တင်ဖောက်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ရာတွင် ဝန်ထမ်းခန့်ထားရာ၌ တစ်နှစ်လျှင် လစာငွေကျပ်(၁,၄၄၀,၀၀၀/-)အထက်ရရှိသော ဝန်ထမ်းများ၏ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထားအတိုင်း ဝန်ထမ်းများ၏လစာမှနုတ်ယူ၍ နိုင်ငံတော်သို့ ပေးဆောင်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

Soe Win
Managing Director
Myeik Public Corporation




မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့
ဖုန်း- ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း-၀၅၉ ၄၂၂၆၃

## လုပ်ငန်းခွင့်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေး အစီအစဉ်

**မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited.)** သည် တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်ကို **BOT** စနစ်ဖြင့် အဆင့် မြှင့်တင်ဖောက်လုပ်ခြင်း လုပ်ငန်းအတွက် လုပ်သားသက်သာချောင်ချိရေးအစီအစဉ်ကို အောက်ပါအတိုင်း စီစဉ်ထားပါသည်။

(က) ဝန်ထမ်းများကို အကြို/အပို့ မော်တော်ယာဉ်များလည်း စီစဉ်ပေးထားမည်ဖြစ်ပါသည်။

(ခ) ဝန်ထမ်းများ၏ ကျန်းမာရေးအရေးပေါ်ကုသနိုင်ရန် ဆေးသေတ္တာများထားရှိပေးမည် ဖြစ်ပါသည်။

(ဂ) **Toll Gate** နှင့် နားနေဆောင်ကိုလည်း တည်ဆောက်ပြီး၊ ထမင်းစားခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးပါမည်။

(ဃ) ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျက် အလုံအလောက် တည်ဆောက်ထားရှိမည် ဖြစ်ပါသည်။

(င) ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ လုပ်ငန်း ဝန်းကျင်သန့်ရှင်းမှုရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ်မြောင်းများကိုတည် ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန် အစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

Soe Win
Managing Director
Myeik Public Corporation




မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့

ဖုန်း– ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း–၀၅၉ ၄၂၂၆၃

## ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအခြေအနေတင်ပြခြင်း

၁။ **မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited.)** သည် တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်ကို **BOT** စနစ်ဖြင့် အဆင့်မြှင့်တင်ဖောက်လုပ်ခြင်း လုပ်ငန်းလုပ်ကိုင်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် **Toll Gate** ဝန်ထမ်း၊ အိမ်ယာများ၊ အဆောက်အဦများ အတွင်းသန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ လုပ်ငန်းခွင် ပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ လမ်းအချောခင်းရာတွင် အသုံးပြုသည့် ကတ္တရာမှ ညှော်နံ့များထွက်ရှိမှုနည်းအောင် စနစ်တကျ အစဉ်ပြုလုပ်မည်ဖြစ်ပါကြောင်းနှင့် မော်တော်ယာဉ် များ ရေဆေးသန့်စင်ခြင်းမှ ထွက်ရှိမည့် ရေဆိုးများကိုစနစ်တကျ စွန့်ပစ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု ပါသည်။

၂။ **Toll Gate** အဆောက်အဦများ ပတ်ဝန်းကျင်တွင် ဆူညံမှုဖြစ်ပေါ်မည်မဟုတ်ပဲ ပတ်ဝန်းကျင် ညစ်ညမ်းမှုကိုလည်း ဖြစ်ပေါ်မည်မဟုတ်ကြောင်းနှင့် **Toll Gate** အဆောက်အဦများအတွင်းမှ ထွက်ရှိလာသော အမှိုက်များကိုလည်း စနစ်တကျစွန့်ပစ်မည်ဖြစ်ပါကြောင်းနှင့် လုပ်ငန်းမှဖြစ်ပေါ်လာမည့် အနံ့ဆိုးများ ပျောက်ကင်းစေရန် အငွေ့စုပ်သည့်အပင်များ စိုက်ပျိုးထားရှိမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

Soe Win
Managing Director
Myeik Public Corporation





# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့

ဖုန်း– ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း–၀၅၉ ၄၂၂၆၃


---

## အခွန်ငွေပေးဆောင်ရန်နှင့်ပတ်သက်၍ ကတိဝန်ခံချက်

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် (Myeik Public Corporation Limited)** သည် တနင်္သာရီ-မောတောင်လမ်း၏တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း(၆၉/၃)မိုင်ကို BOT စနစ်ဖြင့် အဆင့်မြှင့်တင်ဖောက်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ရာတွင် ဝန်ထမ်းခန့်ထားရာ၌ တစ်နှစ်လျှင် လစာငွေကျပ်(၂,၀၀၀၀၀၀ိ/-)အထက်ရရှိသော ဝန်ထမ်းများ၏ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထားအတိုင်း ဝန်ထမ်းများ၏လစာမှနုတ်ယူ၍ နိုင်ငံတော်သို့ ပေးဆောင်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

Soe Win
Managing Director
Myeik Public Corporation





# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

အမှတ်(၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့

ဖုန်း- ၀၅၉ ၄၂၂၆၄ ၊ ဖက်(စ်)ဖုန်း--၀၅၉ ၄၂၂၆၃


စာအမှတ်၊ ၃၃၂ / စီမံ - ၁၅၀ / MPC

ရက် စွဲ ၊ ၂၀၁၄ ခုနှစ် ၊ ဇွန်လ ( ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ ။ **Corporate Social Responsibility အတွက် စီစဉ်ထားမှုများအား တင်ပြခြင်း**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ တနင်္သာရီ-ထုံခါ-သဲဖြူ-မောတောင်လမ်း (၆၉/၃) မိုင် အား BOT စနစ်ဖြင့် ဆောင်ရွက်ခြင်းလုပ်ငန်းကိုလုပ်ကိုင် ဆောင်ရွက်ရန် ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ဤလုပ်ငန်းအနေဖြင့် လူမှုရေးအကျိုးပြုလုပ်ငန်း (CSR) များအတွက် နှစ်စဉ်လုပ်ငန်းမှရရှိသော အမြတ်ငွေ၏ (၁%)ကို လူမှုရေးများ၊ ဒေသတွင်း လူမှုစီးပွားဖွံ့ဖြိုးရေးလုပ်ငန်းများ၊ ကျန်းမာရေး၊ ဘာသာရေးလုပ်ငန်းများ၊ ကျောင်းများ ပညာရေးဖွံ့ဖြိုးတိုးတက်စေရန်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ကိစ္စရပ်များအတွက် အထောက်အပံ့ဆောင်ရွက်ပေးရန် ကုမ္ပဏီမှ သုံးစွဲသွားမည်ဖြစ်ကြောင်းကိုလည်း အသိပေး တင်ပြအပ်ပါသည်။

Soe Win
Managing Director
Myeik Public Corporation

မိတ္တူကို -
- ရုံးလက်ခံ
- မျှောစာတွဲ

Drun/Tin Pya Sar/2014 sar

# မြိတ်ခရိုင်အတွင်း ဆက်သွယ်သောလမ်းကြောင်းပြမြေပုံ



# မြိတ် - တနင်္သာရီ - မောတောင်လမ်း အခြေပြပုံ







-ကတ္တရာလမ်း
-ကျောက်လမ်း
-မြေလမ်း

တနင်္သာရီ - တုံခါ - သံဖြူလမ်း

တနင်္သာရီ - ညောင်ပင်ကွင်း - သံဖြူ - မောတောင်လမ်း

001013



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် .......၃၀၇၈../ ၂၀၁၂-၂၀၁၃

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ...မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်....

.....................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ..၂၀၁၂ နှစ်အောက်တိုဘာလ၊ ..၂၅ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။



ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နန်းရီရီသန်း၊ ညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. .............3078.......... of 2012-2013

I hereby certify that ........MYEIK PUBLIC CORPORATION LIMITED.

..............................................................................is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this .....TWENTY-FIFTH...........day of.............OCTOBER, TWO THOUSAND AND TWELVE.............................

**For Director General**
**(Nang Yi Yi Than, Director)**

Directorate of Investment and Company Administration




# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

အမှတ် (၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့။

မုန်း-- ၀၉-၈၇၆၂၃၁၂ ၊ ၀၅၉-၄၁၁၈၈






ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
ရုံးအမှတ်(၃၂)၊ နေပြည်တော်။

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာလ၊ (၁၈.) ရက်။

အကြောင်းအရာ။ ။ <u>ပုံစံ (၆) ၊ (၂၆) ပေးပို့မှတ်ပုံတင်ခြင်း။</u>

ကျွန်တော်တို့၏ Myeik Public Corporation Limited (မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်) သည်ကုမ္ပဏီမှတ်ပုံတင်အမှတ် {၃၀၇၈/၂၀၁၂ -၂၀၁၃( ၂၅ . ၁၀ . ၂၀၁၂) } ဖြင့်မှတ်ပုံတင်ထားသည့် အများနှင့်သက်ဆိုင်သည့် ဆောက်လုပ်ရေး ကုမ္ပဏီဖြစ်ပါသည်။

ယခုအခါကျွန်တော်တို့ကုမ္ပဏီ၏ (၂-၁၁-၂၀၁၂) နေ့တွင် ကျင်းပပြုလုပ်သည့် ဒါရိုက်တာအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အရ အစုရှယ်ယာရောင်းချခြင်း ပုံစံ (၆) နှင့် ဒါရိုက်တာအဖွဲ့ ခန့်ထားခြင်း ပုံစံ(၂၆) တို့ကို သတ်မှတ်ပုံစံများတွင် ဖြည့်စွက်လျက် ကုမ္ပဏီများမှတ်ပုံတင်ရုံးသို့ ပေးပို့ မှတ်ပုံတင်အပ်ပါသည်။

ကျသင့်သည့်မှတ်ပုံတင်ကြေးများကိုလည်း ပေးသွင်းပြီးဖြစ်ပါ၍ ချလံကိုပူးတွဲတင်ပြ အပ်ပါသည်။

ပူးတွဲလျက်။

(၁) ပုံစံ(၆)တစ်စောင်
(၂) ပုံစံ(၂၆)တစ်စောင်
(၃) အစည်းအဝေးမှတ်တမ်းတစ်စောင်

လေးစားစွာဖြင့်



(လှသန်း)
ဒါရိုက်တာ ဥက္ကဋ္ဌ
မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန 00012467

ငွေလက်ခံ/ရရှိ ပြေစာ

ရက်စွဲ၊ ၈ - ၁၁ - ၂၀၀၂

ကုမ္ပဏီအမည် (မြန်မာ) [illegible]

(အင်္ဂလိပ်) ..........

ငွေပေးသွင်းသည့် အကြောင်းအရာ၊ ပုဒ်မ (၆)(၂၆)

ပေးသွင်းသည့်ငွေ (ဂဏန်းဖြင့်) ၁၅၀

(စာဖြင့်) တစ်ရာ့ငါးဆယ်ကျပ်

ငွေပေးသွင်းသူလက်မှတ် [signature]

အမည်၊ [illegible]

ငွေလက်ခံသူလက်မှတ် [signature] 8.11.12

အမည်၊ [illegible]

# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်
အမှတ် (၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့။
ဖုန်း- ၀၉-၈၇၆၂၃၀၂ ၊ ၀၅၉-၄၁၁၈၈

<u>ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း</u>

ကျင်းပသည့်အချိန် ။ ။ နံနက် ၁၀း၀၀ နာရီ
ကျင်းပသည့်နေ့ ။ ။ ၂-၁၁-၂၀၁၂
ကျင်းပသည့်နေရာ ။ ။ ကုမ္ပဏီရုံးခန်း

<u>တက်ရောက်ကြသူများ</u>

| စဉ် | အမည် | လက်မှတ် |
|---|---|---|
| (၁) | ဦးလှသန်း | (signature) |
| (၂) | ဦးထွန်းထွန်းဝင်း | (signature) |
| (၃) | ဦးခင်မောင်ကျော် | (signature) |
| (၄) | ဦးပျိုးအောင် | (signature) |
| (၅) | ဦးပေါစိန် | (signature) |
| (၆) | ဦးစိုးဝင်း | (signature) |
| (၇) | ဦးကြည်ခန်း | (signature) |
| (၈) | ဦးထွန်းအောင်ကျော် | (signature) |
| (၉) | ဦးခံမြင့် | (signature) |
| (၁၀) | ဦးအင်ဟို | (signature) |
| (၁၁) | ဦးထွန်းလင်း | (signature) |
| (၁၂) | ဦးမောင်ယု | (signature) |
| (၁၃) | ဦးသန်းနိုး | (signature) |

# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

အမှတ် (၂၆)၊ ကမ်းနားလမ်း၊ ထားဝယ်စုရပ်၊ မြိတ်မြို့။

ဖုန်း - ၀၉-၈၇၆၂၃၁၂ ၊ ၀၅၉-၄၁၁၈၈

အစည်းအဝေးတွင်ကုမ္ပဏီ၏ မန်နေးဂျင်းဒါရိုက်တာဖြစ်သူ ဦးလှသန်း မှ သဘာပတိအဖြစ် ဆောင်ရွက်၍ အောက်ပါအတိုင်းဆွေးနွေးဆုံးဖြတ်ကြပါသည်။

အစည်းအဝေးဆုံးဖြတ်ချက်

(၁) ကျပ်တစ်သောင်း (၁၀၀,၀၀၀/-) တန် အစုရှယ်ယာများကို ခွဲဝေရောင်းချရန်၊

(၂) လုပ်ငန်းလိုအပ်ချက်အရ အဆိုပြုရှယ်ယာထည့်ဝင်ငွေပေါ်တွင် ကနဦးအရည်အချင်းပြည့် အစုရှယ်ယာများကို ရောင်းချရန် ဆုံးဖြတ်ကြပါသည်။

(၃) ဒါရိုက်တာ/ ဥက္ကဋ္ဌ ဖြစ်သူဦးလှသန်းအား အစုရှယ်ယာ (၃၈၅) စု ထပ်မံရောင်းချရန် ဆုံးဖြတ်ကြပါသည်။

(၄) အဆိုပါ အရည်အချင်းပြည့်ရှယ်ယာထည့်ဝင်ပြီးဖြစ်သော အစုရှယ်ယာရှင် နှင့် ဒါရိုက်တာအဖွဲ့အား အောက်ပါအတိုင်း ဖွဲ့စည်းရန်ဆုံးဖြတ်ကြပါသည်။

| စဉ် | အမည် | အဆိုပြုရှယ်ယာ အရေအတွက် | ဒါရိုက်တာအရည် အချင်းပြည့် အစုရှယ်ယာ အရေအတွက် | စုစုပေါင်းရောင်းချ ပြီးအစုရှယ်ယာ အရေအတွက် | ရာထူး |
|---|---|---|---|---|---|
| ၁။ | ဦးလှသန်း | ၇၀၀၀ | ၅၀၀ | ၈၈၅ | ဒါရိုက်တာ / ဥက္ကဋ္ဌ / အစုရှင် |
| ၂။ | ဦးထွန်းထွန်းဝင်း | ၅၀၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/ ဒု - ဥက္ကဋ္ဌ / အစုရှင် |
| ၃။ | ဦးခင်မောင်ကျော် | ၃၀၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| ၄။ | ဦးမျိုးအောင် | ၅၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/ အတွင်းရေးမှူး/အစုရှင် |
| ၅။ | ဦးပေါစိန် | ၅၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| ၆။ | ဦးစိုးဝင်း | ၁၀၀၀ | ၅၀၀ | ၅၀၀ | အုပ်ချုပ်မှုဒါရိုက်တာ / အစုရှင် |
| ၇။ | ဦးကြည်စိန်း | ၅၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| ၈။ | ဦးထွန်းအောင်ကျော် | ၁၀၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| ၉။ | ဦးစံမြင့် | ၅၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| ၁၀ | ဦးအင်ဟို | ၅၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| ၁၁ | ဦးထွန်းလင်း | ၅၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| ၁၂။ | ဦးမောင်မှ | ၁၀၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| ၁၃။ | ဦးသန်းစိုး | ၅၀၀ | ၅၀၀ | ၅၀၀ | ဒါရိုက်တာ/အစုရှင် |
| | စုစုပေါင်း | ၂၁၅၀၀ | ၆၅၀၀ | ၆၈၈၅ | |

အစည်းအဝေးကို နေ့လည် (၁၂:၀၀) နာရီတွင် ရုပ်သိမ်းလိုက်ပါသည်။

မှတ်တမ်းတင်သူ

Myo Aung
Director Secretary
Myeik Public Corporation

အတည်ပြုသူ

(လှသန်း)
ဒါရိုက်တာ ဥက္ကဋ္ဌ
မြိတ်အများပိုင်ကော်ပိုရေးရှင်း...

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104 )

( To be filled with the Registrar within one month after the allotment is made )

Return of allotment from the of 2nd November , 2012. of the * MYEIK PUBLIC CORPORATION LIMITED

on the of

Made pursuant to Section 104 (1)

Number of the shares allotted payable in cash ....... 6885 Shares

" " " " .......

Nominal amount of the shares so allotted ....... Ks.688,500,000/-

" " " " .......

Amount paid or due and payable on cash such share....... Ks. 100,000/- (10% Paid Up)

" " " " .......

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted ........

Amount to be treated as paid on each such share ........

The consideration for which such share have been allotted is as follow: -

---

NOTE : In making a return of allotted under Section 104 (1) the Myanmar Companies Act., it is to be noted that-

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world " From" after the world " allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.





# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104 )

( To be filled with the Registrar within one month after the allotment is made )

Return of allotment from the of

on the of of the *

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .......

" " " .......

Nominal amount of the shares so allotted .......

" " " " .......

Amount paid or due and payable on cash such share.......

" " " " .......

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted ........

Amount to be treated as paid on each such share ........

The consideration for which such share have been allotted is as follow: -

---

NOTE : In making a return of allotted under Section 104 (1) the Myanmar Companies Act., it is to be noted that-

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world " From" after the world " allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.



# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)



Name of Company : MYEIK PUBLIC CORPORATION LIMITED

Present by : U Hla Than( Director/Chairman)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Hla Than | Myanmar 6/Ma Ah Ya (Naing) 057303 | No. (12), Bo Ba Htoo Street, Tat Pyin Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director/Chairman w.e.f ( 2 . 11 . 2012) |
| 2. U Tun Tun Win | Myanmar 6/Ma Ah Ya (Naing) 000618 | No. (33), Strand Road, Kangyi Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director/Vice-Chairma w.e.f ( 2 . 11 . 2012) |
| 3. U Khin Maung Kyaw | Myanmar 12/Ta Ma Na (Naing)009764 | KMK Company Compound, 4th Street, Noukle Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director w.e.f ( 2 . 11 . 2012) |
| 4. U Myo Aung | Myanmar 6/Ma Ah Ya (Naing) 043093 | Kye Zin Grossary Shop, Pyidawtha Roaad, Seik Nge Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director/Secretary w.e.f ( 2 . 11 . 2012) |
| 5. U Paw Sein | Myanmar 6/Ma Ah Ya (Naing) 086934 | No. (31), Aung San Road, Myothit 3rd Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director w.e.f ( 2 . 11 . 2012) |

NOTE : (i) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of .......................... and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry.

Signature ..............................

(လှသန်း)

Dated this 2.11.2012 ..........................

Designation ..... ဥက္ကဋ္ဌ .....
မြိတ်အများပိုင်ကော်ပိုရေးရှင်း

Myanmar Companies



# FORM XXVI



## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : MYEIK PUBLIC CORPORATION LIMITED

Present by : U Hla Than (Director/Chairman)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 10. U Eng Hoe | Myanmar 6/Ma Ah Ya (Naing)041269 | No.(3), Bo Ba Htoo Street, Tat Pyin Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director w.e.f ( 2.11.2012.) |
| 11. U Tun Lin | Myanmar 12/Ka Ma Ya (Naing)008073 | KMK Company Compound, 4th Street, Noukle Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director w.e.f ( 2.11.2012.) |
| 12. U Maung Yu | Myanmar 6/Ka Tha Na (Naing) 013247 | Aung Myint Mo Ice Factory, Yeik Tha Street, Kanphyar Quarter, Township, Taninthayi Region. | Merchant | Appointed as Director w.e.f (2.11.2012.) |
| 13. U Than Soe | Myanmar 6/Ma Ah Ya (Naing) 091152 | No.(9), Strand Road, Seik Nge Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director w.e.f (2.11.2012.) |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ..................... and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry.

Signature ............ (လှသန်း)

Dated this .........2.11.2012.........

Designation ........ ဒါရိုက်တာ ဥက္ကဋ္ဌ
မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်



# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)



Name of Company : MYEIK PUBLIC CORPORATION LIMITED

Present by : U Hla Than(Director/Chairman)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 6. U Soe Win | Myanmar 6/Ma Ah Ya (Naing) 037806 | No.(3), Sakawar Street, Myit Nge Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Managing Director w.e.f (2.11.2012.) |
| 7. U Kyi San | Myanmar 12/Ka Ka Ka (Naing) 000495 | No.(248), Shwe Aein Zi Street,Pale Dipa Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director w.e.f ( 2.11.2012.) |
| 8. U Tun Aung Kyaw | Myanmar 6/Ma Ah Ya (Naing)026119 | No.(215), 5th Street, Noukle Quarter, Myeik Township, Myeik Township, Taninthayi Region. | Merchant | Appointed as Director w.e.f ( 2.11.2012.) |
| 9. U San Myint | Myanmar 6/Ma Ah Ya (Naing) 040722 | No. (92), Strand Road, Taline Su Quarter, Myeik Township, Taninthayi Region. | Merchant | Appointed as Director w.e.f ( 2.11.2012.) |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ........................ and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry.

Signature ..................................

Dated this ...........2.11.2012...........

Designation ...................................

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် သက်ဆိုင်သည့်ကုမ္ပဏီ

# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PUBLIC COMPANY LIMITED BY SHARES

# Memoradum Of Association

*AND*

# Articles Of Association



*OF*

# MYEIK PUBLIC CORPORATION LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသောအများနှင့် သက်ဆိုင်သည့် ကုမ္ပဏီ

# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏အမည်သည် **မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏သတ်မှတ်မ,တည်ငွေရင်းသည် ကျပ် ၅၀,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းပေါင်းငါးသောင်းတိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀/-(ကျပ်တစ်သိန်းတိတိ) တန် အစုရှယ်ယာပေါင်း (၅၀၀,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရား ဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊လျှော့ချနိုင်ခွင့်နှင့်ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

# ဆောက်လုပ်ရေးလုပ်ငန်းရည်ရွယ်ချက်

(၁) အောက်ဖော်ပြပါ ဆောက်လုပ်ရေးလုပ်ငန်းများကိုပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရက ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်များ၊ ညွှန်ကြားချက်များနှင့်အညီ မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့်ပုဂ္ဂိုလ်၊ လုပ်ငန်းအဖွဲ့အစည်း၊ သမဝါယမအသင်း၊ သို့မဟုတ် နိုင်ငံပိုင်စီးပွားရေးအဖွဲ့အစည်းများနှင့် ဖက်စပ်ဖြစ်စေ၊ ပူးပေါင်းဆောင်ရွက်ခြင်းဖြစ်စေလုပ်ကိုင်ဆောင်ရွက်ရန် -

- သက်ဆိုင်ရာဝန်ကြီးဌာနများ မြို့တော်စည်ပင်သာယာရေးကော်မတီများ၊ တိုင်းခရိုင်နှင့် မြို့နယ်စည်ပင်သာယာ ရေးအဖွဲ့များ၏ သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ သင့်လျော်ရာ မြေနေရာများတွင် အောက်ဖော်ပြပါ ဆောက်လုပ်ရေး လုပ်ငန်းများအတွက် အကြို အင်ဂျင်နီယာလုပ်ငန်းများဖြစ်သော မြေစမ်းသပ်ခြင်း၊ ပုံစံထုတ်ခြင်း၊ ခန့်မှန်းခြေစာရင်းတွက်ချက် ခြင်းနှင့် ဆောက်လုပ်ခြင်း၊ ထိန်းသိမ်းပြုပြင်မွမ်းမံခြင်းများကို ဆောင်ရွက်ရန်

(က) လူနေထိုင်ရန် အိမ်ယာအမျိုးမျိုး

(ခ) ဆေးရုံ၊ ကျောင်း၊ ဘော်ဒါဆောင်အမျိုးမျိုး

(ဂ) ရုံး၊ စက်ရုံ၊ အလုပ်ရုံအမျိုးမျိုး

(ဃ) လမ်း၊ တံတား၊ လေယဉ်ကွင်းနှင့်လေဆိပ်အဆောက်အဦး၊ ဘူတာရုံ၊ ယာဉ်ရပ်နားစခန်း၊ သင်္ဘောဆိပ်၊ ဆိပ်ခံတံတား၊ ကုန်ချစခန်းအမျိုးမျိုး

(င) ဈေး၊ ဂိုဒေါင်၊ သိုလှောင်ရုံအမျိုးမျိုး

(စ) ဟိုတယ်၊ မိုတယ်၊ အင်း၊ ဧည့်ရိပ်သာအမျိုးမျိုး

(ဆ) ဆက်သွယ်ရေးဆိုင်ရာ စခန်း၊ တာဝါတိုင်စသည့်များ

(ဇ) စေတီ၊ ပုထိုး၊ ဘုန်းတော်ကြီးကျောင်း၊ ရိပ်သာ၊ ဝတ်ပြုဆုတောင်းရာ စမ္မာရုံနှင့်ဘာသာရေးအဆောက်အဦးအမျိုးမျိုး

(ဈ) ဆည်မြောင်း တာတမံအမျိုးမျိုး

(ည) ဆောက်လုပ်ရေး အင်ဂျင်နီယာလုပ်ငန်းနှင့် ဆက်စပ်နေသည့် ရေသန့်နှင့် လျှပ်စစ်လုပ်ငန်းအမျိုးမျိုး

(ဋ) အခြားလုပ်ငန်းများနှင့် ဆက်စပ်နေသည့် ဆောက်လုပ်ရေး အင်ဂျင်နီယာလုပ်ငန်းအမျိုးမျိုး

(၂) ဆောက်လုပ်ရေးအင်ဂျင်နီယာလုပ်ငန်းဆိုင်ရာ ကုန်ကြမ်း၊ ကုန်ချောပစ္စည်းများ၊ အထောက်အကူပြု စက်၊ ယန္တယား၊ ယာဉ်နှင့်အရံဆက်စပ်ပစ္စည်းများကို လုပ်ငန်းသုံးအတွက် ပြည်ပမှတင်သွင်းခြင်း ပြည်တွင်း၌ ဝယ်ယူခြင်း။

(၃) ဆောက်လုပ်ပြီး၊ အဆောက်အဦးများကို အရောင်းကောင်တာဖွင့်လှစ်ရောင်းချခြင်း၊ ငှားရမ်းခြင်း။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်သို့မဟုတ် ငွေကြေး၊ အဖွဲ့အစည်းထံမှမဆို ငွေချေးယူခြင်း။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

၃(က)

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာဖော်ပြထားပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျှောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုရှယ်ယာထည့်ဝင်သူများ၏ အမည်- နေရပ်လိပ်စာ နှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးလှသန်း<br>အမှတ်-(၁၂)၊ ဗိုလ်ဗထူးလမ်း၊ တပ်ပြင်ရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၅၇၃၀၃ | ၇၀၀၀ | |
| ၂။ | ဦးထွန်းထွန်းဝင်း<br>အမှတ်-(၃၃)၊ ကမ်းနားလမ်း၊ ကန်ကြီးရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၀၀၆၁၈ | ၅၀၀၀ | |
| ၃။ | ဦးခင်မောင်ကျော်<br>KMK ကုမ္ပဏီစက်ရုံဝင်း၊ (၄) လမ်း၊ နောက်လယ်ရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၁၂/တမန(နိုင်)<br>၀၀၉၇၆၄ | ၃၀၀၀ | |
| ၄။ | ဦးမျိုးအောင်<br>ကြယ်စင်ကုန်ဆိုင်၊ ပြည်တော်သာလမ်း၊ ဆိပ်ငယ်ရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၄၃၀၉၃ | ၅၀၀ | |
| ၅။ | ဦးပေါ်စိန်<br>အမှတ်-(၃၁)၊ အောင်ဆန်းလမ်း၊ မြို့သစ်(၃) ရပ်ကွက်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၈၆၉၃၄ | ၅၀၀ | |
| ၆။ | ဦးစိုးဝင်း<br>အမှတ်-(၃)၊ စကားဝါလမ်း၊ မြစ်ငယ်ရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်း ဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၃၇၈၀၆ | ၁၀၀၀ | |

နေ့စွဲ ၂၀၁၂ ခုနှစ်၊ စက်တင်ဘာ လ ၅ ရက်။




အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

5/9/12

Kyu Kyu Win
B.Com, C.P.A, M.B.A
B.B.L, D.M.L
Certified Public Accountant

| စဉ် | အစုရှယ်ယာထည့်ဝင်သူများ၏ အမည်- နေရပ်လိပ်စာ နှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၇။ | ဦးကြည်စန်း<br>အမှတ်-(၂၄၈)၊ ရွှေအိမ်စည်လမ်း၊ ပုလဲဒီပါရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်း ဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကကက(နိုင်)<br>၀၀၀၄၉၅ | ၅၀၀ | |
| ၈။ | ဦးထွန်းအောင်ကျော်<br>အမှတ်-(၂၁၅)၊ (၅) လမ်း၊ နောက်လယ်ရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်း ဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၂၆၁၁၉ | ၁၀၀၀ | |
| ၉။ | ဦးစံမြင့်<br>အမှတ်-(၉၂)၊ ကမ်းနားလမ်း၊ တလိုင်းစုရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်း ဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၄၀၇၂၂ | ၅၀၀ | |
| ၁၀။ | ဦးအင်ပို<br>အမှတ်-(   )၊ ဗိုလ်ဗထူးလမ်း၊ တပ်ပြင်ရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၄၁၂၆၉ | ၅၀၀ | |
| ၁၁။ | ဦးထွန်းလင်း<br>KMK ကုမ္ပဏီစက်ရုံဝင်း၊ (၄) လမ်း၊ နောက်လယ်ရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်း ဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၁၂/ကမရ(နိုင်)<br>၀၀၈၀၇၃ | ၅၀၀ | |
| ၁၂။ | ဦးမောင်ယု<br>အောင်မြင့်မိုရ်ရေခဲစက်၊ ရိပ်သာလမ်း၊ ကံဖျားရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်း ဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/ကသန(နိုင်)<br>၀၁၃၂၄၇ | ၁၀၀၀ | |
| ၁၃။ | ဦးသန်းစိုး<br>အမှတ်(၉)၊ ကမ်းနားလမ်း၊ ဆိပ်ငယ်ရပ်၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်း ဒေသကြီး။<br>(ကုန်သည်) | မြန်မာ<br>၆/မအရ(နိုင်)<br>၀၉၁၁၅၂ | ၅၀၀ | |




၂၀၁၂ ခုနှစ် စက်တင်ဘာ လ ၅ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

5/9/12

Kyu Kyu Win
B.Com, C.P.A, M.B.A
D.B.L, D.M.L
Certified Public Accountant

( ၄ )

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ကန့်သတ်ထားသော

အများနှင့်သက်ဆိုင်သည့် ကုမ္ပဏီ

# မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

### စကားချီး

၁။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပထမဇယား ပုံစံ(က)တွင်ပါရှိသောစည်းမျဉ်းများသည် ကုမ္ပဏီကအတိအလင်း ထည့်သွင်းဖော်ပြထားသော သို့မဟုတ် အကျုံးဝင်စေရမည်ဟုသဘောတူဆောင်သော ပြဋ္ဌာန်းချက်များမှ တစ်ပါး၊ဤ ကုမ္ပဏီသက်ဆိုင်မှုမရှိစေရ၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ၁၇၊ ပုဒ်မခွဲ(၂)တွင် မလိုက်နာမနေရ သတ်မှတ် ထားသည့်စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်အာဏာအမြဲသက်ဆိုင်စေရမည်။

၂။ ဤစည်းမျဉ်းများတွင်ပါရှိသောစကားရပ်များသည် အတိအလင်းအဓိပ္ပါယ်ပေါ်လွင်သည့် စကားရပ်များမှတစ်ပါး ဤစည်းမျဉ်းများက နောက်တွင်ကုမ္ပဏီဟုဖော်ပြမည့် မြိတ်အများပိုင်ကော်ပိုရေးရှင်းလီမိတက် ပေါ်စတင်အာဏာ သက်ရောက်သည့်နေ့မှစ၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ သို့မဟုတ် ယင်းဥပဒေများတွင်ပြင်ဆင် ပြဋ္ဌာန်းသည့် အဓိပ္ပါယ်ဖော်ပြချက်နှင့်အညီဖြစ်စေရမည်၊ ထိုသို့အပြန်အလှန်အားဖြင့် ဧကဝုဒ်ကိန်းအဖြစ်ဖော်ပြသော စကားရပ်များ တွင်ဗဟုဝုဒ်ကိန်းများလည်း ပါဝင်သည်။ ထို့အပြင်ပုလ္လိင်ဖြင့်ဖော်ပြသော စကားရပ်များတွင်ဣတ္ထိလိင်များလည်းပါဝင် စေရမည်။

၃။ ထို့အပြင်နောင်တွင်ဖော်ပြထားသည့်စကားရပ်များသည် ၎င်းတို့အတွက်သတ်မှတ်ထားသည့် အဓိပ္ပါယ်များရှိစေရမည်။
(က) မတည်ငွေရင်း ---- ဆိုသည်မှာ ကုမ္ပဏီ၏မတည်ငွေရင်းကိုဆိုလိုသည်။
(ခ) ဒါရိုက်တာများ ---- ဆိုသည်မှာ ကုမ္ပဏီ၏ လက်ရှိဒါရိုက်တာများကိုဆိုလိုသည်။
(ဂ) အတွင်းရေးမှူး ---- ဆိုသည့်စကားရပ်တွင်ခေတ္တသို့မဟုတ်လက်ထောက်အတွင်းရေးမှူးနှင့်အတွင်းရေးမှူး ၏တာဝန် ဝတ္တရားတစ်ခုခုကိုဆောင်ရွက်ရန် ဒါရိုက်တာများကခန့်ထားသူတစ်ဦးဦးလည်း ပါဝင်သည်။
(ဃ) အမြတ်ဝေစု ---- ဆိုသည့်စကားရပ်တွင်ဆုငွေလည်းပါဝင်သည်။
(င) အစုရှင်ဆိုသည်မှာ ---- ကုမ္ပဏီ၏ အစုရှယ်ယာများကိုပိုင်ဆိုင်သည့် မှတ်ပုံတင်အစုရှင်တစ်ဦးဦး ကိုဆိုလိုသည်။

(စ) အလုပ်တိုက် ---- ဆိုသည်မှာ ကုမ္ပဏီ၏အစုရှယ်ယာများကို မှတ်ပုံတင်ဝင် အလုပ်တိုက်ကိုဆိုလိုသည်။

(ဆ) ငွေပေးသွင်းပြီးသည့် ---- ဆိုသည့်စကားရပ်တွင် ငွေပေးသွင်းပြီးဟု စာရင်းပြသည်ဆိုသည့် စကားရပ်လည်းပါဝင်သည်။

(ဇ) တံဆိပ် ---- ဆိုသည်မှာ ကုမ္ပဏီ၏တံဆိပ်ကိုဆိုလိုသည်။

(ဈ) အက်ဥပဒေ ---- ဆိုသည်မှာ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေကိုဆိုလိုသည်။

(ည) စာဖြင့် ---- ဆိုသည်မှာ ရေးသားထားသည့်စာ၊ ပုံနှိပ်ထားသည့်၊ ကျောက်ပုံနှိပ်သည့်စာ၊ သို့မဟုတ် စကားများကို မြင်သာအောင်ဖော်ပြသည့် နည်းတစ်မျိုးမျိုးဖြင့်ဖော်ပြထားသည့်စာကိုဆိုလိုသည်။

(ဋ) ကုမ္ပဏီ ---- ဆိုသည်မှာ မြိတ်အမျှားပိုင်ကော်ပိုရေးရှင်းလီမိတက် ကိုဆိုလိုသည်။

## အများနှင့်သက်ဆိုင်သည့်ကုမ္ပဏီ

၁။ ဤကုမ္ပဏီသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၂၊ ပုဒ်မခွဲ(၁) ပုဒ်မခွဲငယ် ၁၃(က)တွင်အဓိပ္ပါယ် ဖော်ပြထားသည့် အများနှင့်သက်ဆိုင်သော လီမိတက်ကုမ္ပဏီ ဖြစ်သည်။

## လုပ်ငန်းစတင်ဆောင်ရွက်ခြင်း

၂။ ကုမ္ပဏီ၏လုပ်ငန်းစတင်ဆောင်ရွက်ခြင်းနှင့်ပတ်သက်ပြီး၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၀၃တွင် ဖော်ပြထားသည့်သတ်မှတ်ချက်များသည် ဤကုမ္ပဏီနှင့်သက်ဆိုင်စေရမည်ဟု သတ်မှတ်ထားခဲ့လျှင် သတ်မှတ်ထားသည့် အတိုင်းအတာအချက်အလက်များကို ဒါရိုက်တာများက အလေးထားဂရုမူရမည်။

## အစုရှယ်ယာများ

၃။ ကုမ္ပဏီ၏မှတ်တမ်းတွင် သတ်မှတ်ချက်များပါရှိခဲ့လျှင် ယင်းတို့ကိုလိုက်နာလျက် ကုမ္ပဏီကမူလကတည်းက ပေးထားသောအစုရှယ်ယာပါ အထူးအခွင့်အရေးများကိုထိခိုက်မှုမရှိစေဘဲဝေစုခံစားခွင့်ကိစ္စ၊ မဲပေးခွင့်ကိစ္စ၊ တန်ဖိုးပြန်ရခွင့်ကိစ္စ သို့မဟုတ် အခြားသောကိစ္စများနှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် အခါအားလျော်စွာ အထူးစည်းကမ်းသတ်မှတ်ဆုံးဖြတ်ချက်၊ အဆိုပါဦးစားပေးအစုရှယ်ယာများ၊ ရွှေ့ဆိုင်းထားသောအခွင့်အရေးပါ အစုရှယ်ယာများ သို့မဟုတ် အခြားအထူးအခွင့်အရေးများ သို့မဟုတ် အဆိုပါကန့်သတ်ချက်များသည် မည်သည့် အစုရှယ်ယာ ကိုမဆို ထုတ်ပေးနိုင်သည်။ ထို့ပြင်ဤကုမ္ပဏီ၏သဘောအတိုင်းရွေးနှုတ်နိုင်သည့် အခွင့်အရေး သတ်မှတ်ချက်ဖြင့် ဦးစားပေး အစုရှယ်ယာများကို အထူးဆုံးဖြတ်ချက်အရထုတ်ပေးနိုင်သည်။

၄။ အကယ်၍ မည်သည့်အချိန်၌မဆို အစုရှယ်ယာမတည်ငွေရင်းကို အစုရှယ်ယာအတန်းအစားအမျိုးမျိုးဖြစ်အောင် ခွဲစိတ်လျှင် မည်သည့်အမျိုးအစားကိုမဆို ပူးတွဲပါရှိသည့်အခွင့်အရေးများအား (ယင်းထုတ်ပေးသောအစုရှယ်ယာအမျိုးအစား အတွက်စည်းကမ်းချက်များ၊ အခြားနည်းစီစဉ်ထားပြီးမဟုတ်လျှင်) မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၆၆–က ပါပြဋ္ဌာန်းချက်များကိုလိုက်နာလျက် အဆိုပါအစုရှယ်ယာအမျိုးအစား၏လေးပုံသုံးပုံပိုင်ဆိုင်ထားသူတို့၏ စာအားဖြင့် သဘောတူညီချက်ဖြင့်သော်လည်းကောင်း၊သို့မဟုတ်အစုရှယ်ယာအမျိုးအစားပိုင်ရှင်များ၏ သီးခြားအထွေထွေအစည်းအဝေး၌ အထူးသဘောတူစည်းကမ်းသတ်မှတ်ဆုံးဖြတ်ချက်တစ်ရပ်ဖြင့် ခွင့်ပြုချက်အရသော်လည်းကောင်း ပြောင်းလဲနိုင်ခွင့်ရှိသည်။ အဆိုပါသီးခြား အထွေထွေအစည်းအဝေးများ အတွက် သတ်မှတ်ထားသော ဤစည်းမျဉ်းများကို သင့်လျော်သလိုပြောင်းလဲပြင်ဆင်၍အသုံးပြုရမည်။ သို့သော် အစည်း အဝေးအထမြောက်စေရန်အတွက် ထုတ်ပေးထားသည့် အစုရှယ်ယာအမျိုးအစားပိုင်ဆိုင်သူ အနည်းဆုံးငါးဦးက ကိုယ်တိုင်ဖြစ်စေတက်ရောက်ရမည်။

။ အစုရှယ်ယာပါဝင်လျှောက်ထားလျှင် အစုရှယ်ယာတန်ဘိုးရင်း၏ငါးရာခိုင်နှုန်းအနည်းဆုံးကိုလျှောက်ထားစဉ် ပေးချေရမည်၊ ဒါရိုက်တာများသည် အစုရှယ်ယာများကိုခွဲဝေထုတ်ပေးရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၀၁ နှင့် ၁၀၄ ပါ သက်ဆိုင်ရာပြဋ္ဌာန်းချက်တို့ကို လိုက်နာဆောင်ရွက်ရမည်ဟူသော စည်းကမ်းချက်များနှင့်ညီညွတ်သည် မှတပါး မည်သည့်အစုရှယ်ယာကိုမျှ ပါဝင်ရန်ဖိတ်ခေါ်ခြင်းမပြုရ။

။ ကုမ္ပဏီအစုဝင်မှတ်ပုံတင်စာရင်းတွင် အမည်စာရင်းသွင်းပြီးသောအစုဝင်တိုင်းသည် အစုရှယ်ယာ သို့မဟုတ် အစုရှယ်ယာများကို ယင်းပုဂ္ဂိုလ်ပိုင်ဆိုင်ကြောင်းအသိအမှတ်ပြုသောတန်ဖိုးနှင့် ပေးသွင်းပြီးသောငွေပမာဏကိုဖော်ပြလျက် ကုမ္ပဏီ၏အမြဲသုံးတံဆိပ်ခတ်နှိပ်ထားသည့် သက်သေခံလက်မှတ်တစ်စောင်ကို ငွေပေးချေရန်မလိုဘဲ ရထိုက်ခွင့်ရှိစေရမည်။ သို့ရာတွင်အစုရှယ်ယာတစ်စုသို့မဟုတ် အစုရှယ်ယာများကို ပူးတွဲပိုင်ဆိုင်သူများကိစ္စအလို့ငှာယင်းသို့ ပူးတွဲပိုင်ဆိုင်သူပုဂ္ဂိုလ်များသို့ ပိုင်ဆိုင်ကြောင်းသက်သေခံလက်မှတ်တစ်စောင်ထက်ပို၍ ထုတ်ပေးခွင့်မရှိစေရ၊ ထို့ပြင် အစုရှယ်ယာတစ်စုကို ပူးတွဲပိုင်ဆိုင်သူများအနက်တစ်ဦးကို သက်သေခံလက်မှတ်တစ်စောင်ထုတ်ပေးပြီးဖြစ်လျှင် ကျန်အားလုံးကိုပါ ထုတ်ပေးပြီးဖြစ်သည်ဟုမှတ်ယူရမည်။

အကယ်၍ အစုရှယ်ယာသက်သေခံလက်မှတ်တစ်စောင်သည် ပုံသဏ္ဌာန်ပျက်လျှင်၊ ပျောက်ဆုံးလျှင်သို့မဟုတ်ပျက်စီးလျှင် ဒါရိုက်တာများကသင့်လျော်သည်ဟု ယူဆသည့်အတိုင်းအထောက်အထားနှင့် လျော်ကြေးခံဝန်ချုပ်စသည့်စည်းကမ်းတို့ကိုလိုက်နာပြီး အခကြေးငွေပေးဆောင်စေလျက် အစုရှယ်ယာသက်သေခံလက်မှတ်ကိုအသစ် လဲလှယ်ပေးနိုင်သည်။

၁၀။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၅၄–က တွင်ခွင့်ပြုထားသည်မှတပါး ယင်းသတ်မှတ်ချက်ထက်ပိုသော ကုမ္ပဏီ၏မည်သည့်ရန်ပုံငွေများ၏ အစိတ်အပိုင်းကိုမျှကုမ္ပဏီ၏အစုရှယ်ယာများဝယ်ယူရန်သော်လည်းကောင်း၊ အာမခံထား၍ ငွေချေးခြင်းသော်လည်းကောင်းမပြုလုပ်ရန်။

ရယူပိုင်ခွင့်

၁၂။ ကုမ္ပဏီသည်ရှယ်ယာတိုင်း(ငွေအပြည့်မချေရသေးသည့်အစုရှယ်ယာ)အတွက်ငွေကြေးများ (လက်ငင်းပေးချေရန်အချိန်ကျရောက်သည်ဖြစ်စေ၊ မကျရောက်သည်ဖြစ်စေ) တောင်းခံသည့်အခါ သို့မဟုတ် သက်ဆိုင်ရာရှယ်ယာ အတွက်ပေးချေရန်ကန့်သတ်ချိန် စေ့ရောက်သည့်အခါ ရယူပိုင်ခွင့်ရှိရမည်။ ထို့ပြင်ကုမ္ပဏီအနေဖြင့် ပုဂ္ဂိုလ်တစ်ဦး တည်း၏ နာမည်နှင့် တိကျသော ညွှန်ကြားမှုဖြင့်မှတ်ပုံတင်ထားရှိသည့် အစုရှယ်ယာအားလုံး (အပြည့်အဝပေးချေပြီးသည့်ရှယ်ယာများအပြင်) အတွက်ချက်ချင်းလက်ငင်းပေးချေရန် ငွေကြေးအားလုံးကို သူကိုယ်တိုင် သော်လည်းကောင်း၊ သူ၏လယ်ယာအိမ်မြေပစ္စည်းများဖြင့်သော်လည်းကောင်း ကုမ္ပဏီသို့ပေးချေရန်ရှိသည့်အခြေ အနေတွင်ယင်းအစုရှယ်ယာ အားလုံးကိုရယူပိုင်ခွင့်ရှိရမည်။ သို့သော်ဒါရိုက်တာများအနေဖြင့် မည်သည့်အစုရှယ် ယာကိုမဆို အပြည့်အဝ သို့မဟုတ် တစ်စိတ်တစ်ဒေသအား ဤအပိုဒ်ရှိသတ်မှတ်ချက်များမှကင်းလွတ်ခွင့် ပြုကြောင်း မည်သည့် အချိန်အခါတွင်မဆို ကြေငြာနိုင်သည်။ ကုမ္ပဏီ၏ရှယ်ယာတစ်စုအပေါ် ရယူပိုင်ခွင့်(ရှိလျှင်) ထိုအချိန်မှစ၍ပေးရန် အမြတ်ဝေစုများအထိအကျုံးဝင်စေရမည်။

၁၃။ ကုမ္ပဏီအနေဖြင့် ဒါရိုက်တာများကသင့်လျော်သည်ဟုယူဆသည့် နည်းလမ်းအတိုင်း ကုမ္ပဏီမှရယူပိုင်ခွင့်ရှိသည့် မည်သည့်အစုရှယ်ယာများကိုမဆိုရောင်းချခွင့်ရှိသည်။သို့သော် ငွေပမာဏတချို့ပေးချေရန်အချိန်စေ့ရောက်သည့် ရယူပိုင်ခွင့်ရှိ အစုရှယ်ယာများကိုသော်လည်းကောင်း၊ လူမွဲဖြစ်ခြင်းကြောင့်သော်လည်းကောင်း အစုရှယ်ယာပိုင်ဆိုင်ခွင့်ရှိသူ၏ လက်ဝယ်လောလောဆယ်ရှိသည့် ရယူပိုင်ခွင့်ရှိပြီးပေးချေရန်စာဖြင့် ဖော်ပြရေးသားတောင်းခံသည့် နို့တစ်စာအား ထိုသူထံသို့ပေးပို့ပြီး တစ်ဆယ့်လေးရက်ကျော်လွန်ကုန်ဆုံးသည့်အခါတွင် သော်လည်းကောင်း ထိုအခြေအနေမှလွဲ၍မည်သည့်ရောင်းချမှုကိုမျှမပြုလုပ်ရ။

၁၄။ ရောင်းချ၍ရသောငွေမှ ထိုအစုရှယ်ယာအပေါ် လက်ငင်းပေးရန်တာဝန်ရှိသော ငွေများကိုခုနှိမ်ပြီးကျန်ငွေကို တရားဝင်ထိန်းသိမ်းထားခြင်းခံရသောနေ့ကပိုင်ဆိုင်ခဲ့သူသို့ (ရောင်းချသည့်နေ့အထိ) အခြားပေးရန်

ကျန်ငွေကိစ္စများကို ထည့်သွင်းစဉ်းစားပြီးပြန်လည်ပေးအပ်ရမည်။ ဝယ်ယူသူကိုအစုရှယ်ယာပိုင်ဆိုင်သူအဖြစ်မှ မှတ်ပုံတင်သွင်းရမည်။ ထို့ပြင် အစုရှယ်ယာရောင်းရငွေကို မည်ကဲ့သို့သုံးစွဲသည့်ကိစ္စသည် လည်းကောင်း ရောင်းချရာတွင် လုပ်နည်းလုပ်ဟန်မမှန်ကန်ခြင်းနှင့်တရားမဝင်ခြင်းကိစ္စသည်လည်းကောင်းဝယ်ယူသူ၏တာဝန်မဖြစ်စေရ။ထိုပုဂ္ဂိုလ်၏ ပိုင်ဆိုင်မှုကိုလုံးဝမထိခိုက်စေရ။

## အစုရှယ်ယာများအပေါ်တောင်းခေါ်ခွင့်

၁၅။ ဒါရိုက်တာများသည်အခါအားလျော်စွာမိမိတို့၏ ရှယ်ယာများအတွက်ငွေပေးချေခြင်းမရှိသေးသောအဖွဲ့ဝင်များကိုပေးချေရန်တောင်းခေါ်နိုင်သည်။ ထိုသို့တောင်းခေါ်ရာတွင်အပိုကြေးဖြင့်ထုတ်ဝေရောင်းချထားသောအစုရှယ်ယာများမှအပ အစုရှယ်ယာများသတ်မှတ်တန်ဖိုးရင်းထက်ပို၍ တောင်းခေါ်ခြင်းဖြစ်စေ၊ နောက်ဆုံးတောင်းခေါ် မှုပြုသည့်နေ့မှတစ်လမပြည့်မီပေးသွင်းစေရန်ဖြစ်စေမပြုလုပ်ရ။ ထို့ပြင် အဖွဲ့ဝင်တစ်ဦးချင်းသည် (ငွေပေးချေ ရန်သတ်မှတ်ထားသောအချိန်သို့မဟုတ်ပေးချေရန်အကြိမ်များကန့်သတ်ထားသည့်နို့တစ်စာကိုတစ်ဆယ့်လေးရက်ကြိုတင်ရရှိထားခြင်းကိုအကြောင်းပြု၍) အဆိုပါသတ်မှတ်ချိန် သို့မဟုတ် အကြိမ်များအတိုင်း ကုမ္ပဏီသို့ပေးချေရန် တာဝန်ရှိသည်။

အစုရှယ်ယာတစ်စု၏ပူးတွဲပိုင်ဆိုင်သူများသည် အစုရှယ်ယာနှင့်စပ်လျဉ်းသည့် တောင်းခေါ်ခြင်းများအားလုံးကိုပေးရန်တွဲဖက်၍သော်လည်းကောင်း၊ ကိုယ်စီကိုယ်ငှသော်လည်းကောင်းတာဝန်ရှိစေရမည်။

၁၇။ အစုရှယ်ယာတစ်စုနှင့်စပ်လျဉ်း၍ တောင်းခေါ်ထားသော ငွေတစ်ရပ်ပေးခြင်းအတွက် သတ်မှတ်ထားသောနေ့ရက်မတိုင်မီသော်လည်းကောင်း၊ ယင်းနေ့ရက်တွင်သော်လည်းကောင်း မပေးလျှင်အဆိုပါငွေကို ပေးရန်ရှိသောသူထံမှ အဆိုပါငွေပေါ်တွင် သင့်လျော်သောနှုန်းဖြင့် အတိုးကိုအဆိုပါပေးခြင်းအတွက် သတ်မှတ်သောနေ့မှ အမှန်တကယ်ပေးဆောင်သောနေ့အထိပေးရမည်။ သို့ရာတွင်ဒါရိုက်တာများသည်အဆိုပါအတိုးငွေအားလုံးသော်လည်းကောင်း၊တစ်စိတ်တစ်ဒေသသော်လည်းကောင်း ပေးခြင်းမှကင်းလွတ်ခွင့်ပြုနိုင်ခွင့်နှင့် အတိုးနှုန်းသတ်မှတ်ခွင့်ရှိစေရမည်။

၁၈။ အတိုးပေးရန်နှင့်စပ်လျဉ်းသော ဤစည်းမျဉ်းများ၏ သတ်မှတ်ချက်များသည် အစုရှယ်ယာတစ်စုကိုထုတ်ပေးစဉ်ကတည်းကသတ်မှတ်ထားချက်များအရပေးရန် သတ်မှတ်ထားသောအချိန်ရောက်ရှိလာပြီး၊ အစုရှယ်ယာ၏ပမာဏပေါ်မူတည်၍ဖြစ်စေ၊ပရီမီယံကြေးပေးချေသည့်နည်းလမ်းအားဖြင့်ဖြစ်စေပေးချေရမည်ဖြစ်သော်လည်းမည်သည့်ငွေကြေးမျှမပေးချေရသေးသည့်အစုရှယ်ယာများကိစ္စတွင်ပေးချေရန်နို့တစ်စာဖြင့် နည်းလမ်းတကျတောင်းခေါ်မှုတစ်ရပ် ပြုလုပ်ပြီးဘိသကဲ့သို့အကျိုးသက်ရောက်စေရမည်။

၁၉။ ဒါရိုက်တာများသည် အစုရှယ်ယာများထုတ်ပေးခြင်းနှင့်စပ်လျဉ်း၍ ပိုင်ဆိုင်သူတို့အကြားငွေပေးချေရန် ပမာဏ နှင့်အကြိမ်များကိုသီးခြားစီစဉ်ပေးနိုင်ခွင့်ရှိစေရမည်။

၂၀။ မတောင်းခေါ်ရသော၊ မပေးရသေးသောအစုရှယ်ယာများ ကိုင်ရှိထားသည့်အဖွဲ့ဝင်ကယင်းငွေသို့မဟုတ်ယင်း တစ်စိတ်တစ်ဒေသကို ကြိုတင်ပေးထားလိုလျှင် ဒါရိုက်တာလူကြီးများသည် လက်ခံသင့်သည်ဟုယူဆပါက ယင်းငွေများကိုလက်ခံထားနိုင်သည်။ယင်းကဲ့သို့ကြိုတင်ပေးသည့်ငွေအားလုံးအပေါ်သို့မဟုတ်တစ်စိတ်တစ်ဒေသအပေါ်ထိုသို့ကြိုတင်ငွေပေးထားသည့် အဖွဲ့ဝင်နှင့်ဒါရိုက်တာလူကြီးများ သဘောတူသည့်နှုန်းထားအတိုင်း ထိုငွေများအပေါ် အတိုးရရှိနိုင်သည်။

## အစုရှယ်ယာများ လွှဲပြောင်းခြင်းနှင့် တဆင့်လွှဲပြောင်းခြင်း

၂၁။ အစုရှယ်ယာတစ်စုစု၏ လွှဲပြောင်းရေးဆိုင်ရာစာတမ်းကိုလွှဲပြောင်းသူနှင့် လွှဲပြောင်းခံရသူနှစ်ဦးစလုံးက လက်မှတ်ရေးထိုးအတည်ပြုရမည့်အပြင် လွှဲပြောင်းသူသည်အစုဝင်များမှတ်ပုံတင်စာအုပ်တွင် အစုရှယ်ယာနှင့်

စပ်လျဉ်း၍လွှဲပြောင်းခြင်းခံရသူ၏အမည်ကို ရေးသွင်းပြီးသည်အထိ အစုရှယ်ယာပိုင်ဆိုင်သူအဖြစ် တည်ရှိသည် ဟု မှတ်ယူရမည်။

၂၂။ ကုမ္ပဏီ၏ အစုရှယ်ယာများလွှဲပြောင်းရာတွင်ဒါရိုက်တာများလက်ခံအတည်ပြုနိုင်သောသုံးစွဲနေကျရိုးရိုးမည် သည့်ပုံစံဖြစ်စေပြုလုပ်ရမည်။

၂၃။ ဒါရိုက်တာများသည် အပြည့်အဝပေးချေခြင်းမရှိသေးသော အစုရှယ်ယာများကိုင်ငင်းတို့မလိုလားသူသို့ လွှဲပြောင်းခြင်းကို ငြင်းဆိုနိုင်သကဲ့သို့ ကုမ္ပဏီ၌တရားဝင်သိမ်းထားပိုင်ခွင့်ရှိသော အစုရှယ်ယာများလွှဲပြောင်း ခြင်းကိုလည်း ငြင်းနိုင်သည်။ ဒါရိုက်တာများသည်နှစ်စဉ် သာမန်အထွေထွေအစည်းအဝေးမကျင်းပမီ တစ်ဆယ့်လေးရက် ကာလအတွင်းတွင်လွှဲပြောင်းခြင်း မှတ်ပုံတင်ကိုလည်းဆိုင်းငံ့ထားနိုင်သည်။ ဒါရိုက်တာများသည်လွှဲပြောင်းခြင်းဆိုင်ရာမည် သည့်စာချုပ်စာတမ်း တို့ကိုမဆိုအောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်ပျက်ကွက်ခဲ့လျှင် အသိအမှတ်မပြုဘဲနေနိုင်သည်။

(က) လွှဲပြောင်းခြင်းမှတ်ပုံတင်ရန် မှတ်ပုံတင်ခ သုံးဆယ်ကျပ်ထက်မပိုသော အခကြေးငွေကိုပေးဆောင်ရန်။

(ခ) လွှဲပြောင်းပေးသူသည်အမှန်တကယ်လွှဲပြောင်းပေးနိုင်ခွင့်ရှိကြောင်းကိုလွှဲပြောင်းခြင်းစာတမ်းနှင့်အတူ ပူးတွဲ၍ ယင်းနှင့် သက်ဆိုင်သည့် အစုရှယ်ယာများ၏ သက်သေခံလက်မှတ်အပြင်အကယ်၍ ဒါရိုက်တာများသည် လွှဲပြောင်းခြင်းတစ်ခုကို မှတ်ပုံတင်ပေးရန်ငြင်းပယ်လျှင် ကုမ္ပဏီသို့အစုရှယ်ယာလွှဲပြောင်းခြင်းကိုတင်ပြသည့် နေ့မှနှစ်လအတွင်းလွှဲပြောင်းပေးသူနှင့်လွှဲပြောင်းပေးခြင်းခံရသူတို့ထံငြင်းပယ်ကြောင်း နို့တစ်စာပေးပို့ရမည်။

၂၄။ အစုရှယ်ယာပိုင်ဆိုင်သူအဖြစ်မှတ်ပုံတင်ပြီးသူကိုသာကုမ္ပဏီကအစုရှယ်ယာအပေါ် ပိုင်ဆိုင်ခွင့်ရှိသူအဖြစ် အသိအမှတ်ပြုရမည်။

၂၅။ အစုရှင်တစ်ဦးသည် အစုရှယ်ယာပိုင်ဆိုင်သည့်အချိန်၌ဖြစ်စေ၊ နောက်ပိုင်းမည်သည့်အချိန်၌ဖြစ်စေ၊ ၎င်းကွယ်လွန်သည့်အခါ၎င်း၏ အစုရှယ်ယာများကိုလွှဲပြောင်းပေးရန် မည်သည့်ပုဂ္ဂိုလ်၊ ပုဂ္ဂိုလ်များအားမဆို အမည်တင်သွင်းထားနိုင်သည်။ ဤသို့သောကိစ္စရပ်တွင် ကုမ္ပဏီသည်နောက်ဆုံး အမည်တင်သွင်းထားသူအား သာလျှင် ထိုအစုရှယ်ယာအားပိုင်ဆိုင်ခွင့်ရှိသူပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များဖြစ်အသိအမှတ်ပြုရမည်။ ထိုသို့အမည်တင်သွင်းခြင်းမရှိသောအခါတွင်မူ ကွယ်လွန်သည့်တစ်ဦးတည်းပိုင်ဆိုင်သည့်အစုရှယ်ယာပိုင်ရှင်၏ သေတမ်းစာအတည်ပြုသူနှင့် အမွေထိန်းသူတို့ကိုသာ ယင်းအစုရှယ်ယာ၏ ပိုင်ဆိုင်သူအဖြစ် ကုမ္ပဏီကလက်ခံမည်ဖြစ်သည်။အကယ်၍ရှယ်ယာကိုအမည်နှစ်ခုသို့မဟုတ်နှစ်ခုထက်ပို၍ အစုရှယ်ယာကိုမှတ်ပုံတင်ထားလျှင်တစ်ဦးသေဆုံးသွားပါက ကျန်ရှိသူ သို့မဟုတ် ကျန်ရှိသူများ သို့မဟုတ် ကျန်ရှိသူ၏သေတမ်းစာအတည်ပြုသူ သို့မဟုတ် အမွေထိန်းစာရရှိသူသာလျှင် ယင်းအစုရှယ်ယာ၏ ပိုင်ဆိုင်ခွင့်ရှိသူဖြစ်ကြောင်း ကုမ္ပဏီက အသိအမှတ်ပြုရမည်။

၂၆။ မည်သူမဆိုအစုရှယ်ယာတစ်စုကို ပိုင်ဆိုင်ခွင့်ရှိလာလျှင် ဒါရိုက်တာများက အခါအားလျော်စွာတောင်းဆိုသော သက်သေအထောက်အထားများကို တင်ပြနိုင်မှသာလျှင် အဖွဲ့ဝင်အဖြစ်မှတ်ပုံတင်ခြင်းခံယူခွင့်ရှိစေရမည် သို့မဟုတ် ထိုသူက မိမိကိုယ်တိုင်မှတ်ပုံတင်ခြင်းခံယူမည့်အစား ယင်းရှယ်ယာများကိုသေဆုံးသူ သို့မဟုတ် လူမွဲအဖြစ်ခံယူထိုက်သူက လွှဲပြောင်းပိုင်ဆိုင်ခွင့်ရှိစဉ်က လွှဲပြောင်းနိုင်သကဲ့သို့ လွှဲပြောင်းနိုင်ခွင့်ရှိသည်။ သို့သော် ဒါရိုက်တာများသည် မည်သည့်ကိစ္စတွင်မဆိုသေသူသို့မဟုတ်လူမွဲခံယူလွှဲပြောင်းခွင့်ရှိစဉ်က လျှောက်ထားသည့်အခါ မှတ်ပုံတင်ခြင်းကိုငြင်းပယ်ခြင်း သို့မဟုတ် ဆိုင်းငံ့ထားခြင်းပြုလုပ်နိုင်သည်။

၁၇။ ပုဂ္ဂိုလ်တစ်ဦးသည် အစုရှယ်ယာတစ်စုကို အထက်ပါအတိုင်း ပိုင်ဆိုင်ခွင့်ရလာလျှင် ထိုသူသည်မူလမှတ်ပုံတင်ထားသူကိုယ်တိုင်ရရှိခဲ့သော အမြတ်ဝေစုများနှင့် အခြားခံစားခွင့်များကိုရရှိခွင့်ရှိစေရမည်။ သို့သော် ထိုသူသည်အစုဝင်အဖြစ်မှတ်ပုံတင်ခံရခြင်းမရှိမီကုမ္ပဏီအစည်းအဝေးများနှင့်စပ်လျဉ်း၍အစုဝင်များသို့အပ်နှင်းထားသည့်မည်သည့်အခွင့်အရေးကိုမျှ ရရှိခွင့်ရှိမည်မဟုတ်။

## အစုရှယ်ယာများ သိမ်းယူခြင်း

၁၈။ အစုဝင်တစ်ဦးသည်တောင်းခေါ်ခြင်းတစ်ခုခုကိုဖြစ်စေ၊ တောင်းခေါ်ခြင်းတစ်ခု၏ အရစ်ကျပေးခြင်းကိုဖြစ်စေ၊ အဆိုပါပေးခြင်းကိုဖြစ်စေ၊ အဆိုပါပေးခြင်းအတွက် သတ်မှတ်ထားသောနေ့ရက်တွင် ပေးရန်ပျက်ကွက်လျှင် ဒါရိုက်တာများသည် ထိုသို့ဖြစ်ပြီးနောက် မည်သည့်အချိန်၌မဆို၊ ယင်းတောင်းခေါ်ခြင်း၏ သို့မဟုတ် အရစ်ကျပေးခြင်း၏ အချို့တစ်ဝက်ကို ပေးရန်ကျန်ရှိနေသည့် အချိန်အတွင်းတွင်မပေးရသေးသော တောင်းခေါ်ခြင်း ရှိသမျှကိုဖြစ်စေ၊ အရစ်ကျပေးခြင်းရှိသမျှကိုဖြစ်စေ၊ကျသင့်သောအတိုးနှင့်တကွပေးဆပ်ရန်ဆင့်ဆိုသောနို့တစ်စာကိုထိုသူထံသို့ ချအပ်နိုင်သည်။

၁၉။ နို့တစ်စာတွင် နေ့ရက်သတ်မှတ်၍ (နို့တစ်စာထုတ်ဆင့်သည့်နေ့မှ သတ်မှတ်ရက်ကုန်ဆုံးသောနေ့ သို့မဟုတ် တစ်ဆယ့်လေးရက်ထက်မစောသော) ယင်းနေ့ရက်ထက်စော၍သော်လည်းကောင်း ထိုနေ့တွင်သော် လည်းကောင်း ငွေပေးချေရန်သတ်မှတ်ကြောင်းအကယ်၍ပျက်ကွက်ပါက ယင်းပျက်ကွက်မှုအတွက် အဆိုပါ အစုရှယ်ယာများကို သိမ်းယူခြင်းခံရဖွယ်အကြောင်းရှိကြောင်းဖော်ပြပါရှိရမည်။

၂၀။ မည်သည့်အဆိုပါ နို့တစ်စာပါလိုအပ်ချက်များ အတိုင်းလိုက်နာဆောင်ရွက်ခြင်းမရှိပါကပေးအပ်ပြီးသော နို့တစ်စာက ရည်ညွှန်းသော ငွေပေးချေရန်ကိစ္စနှင့်စပ်လျဉ်း၍ မပေးချေမီကာလအတွင်းမည်သည့်အချိန်၌မဆို ဒါရိုက်တာများ၏ အစည်းအဝေးဆုံးဖြတ်ချက်တစ်ရပ်အရသိမ်းယူနိုင်သည်။

၂၁။ သိမ်းယူခြင်းခံရသောအစုရှယ်ယာတစ်စု ရောင်းချခြင်းဖြင့်ဖြစ်စေ သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု အခြားနည်းဖြင့် စီမံခန့်ခွဲခြင်းမပြုမီ မည်သည့်အချိန်အခါ၌မဆို ဒါရိုက်တာများကသင့်လျော်သည်ဟုယူဆသည့် စည်းကမ်းချက်များအရ အစုရှယ်ယာသိမ်းယူခြင်းကိုပယ်ဖျက်နိုင်သည်။

၂၂။ အစုရှယ်ယာသိမ်းယူခြင်းခံရသူသည် အဆိုပါအစုရှယ်ယာကိုကိုယ်စားပြုသောအစုဝင်တစ်ဦးအဖြစ်မှရပ်စဲခြင်းခံရမည်။ သို့သော် ရပ်စဲခြင်းခံရသည့်နေ့တွင် အဆိုပါအစုရှယ်ယာများ၏ တန်ဖိုးအလိုက်ကုမ္ပဏီသို့ ထိုသူကပေးချေရမည့် ငွေကြေး အားလုံးနှင့်စပ်လျဉ်း၍ ပေးချေရန်တာဝန်ဆက်လက်တည်ရှိနေမည်။ သို့သော် အဆိုပါအစုရှယ်ယာများ သတ်မှတ်တန်ဖိုးရင်းအပြည့်အဝကို ကုမ္ပဏီမှရရှိပြီးသည့်အချိန်မှစ၍ ထိုသူပေါ်တွင် ယင်းပေးချေရန်တာဝန် ရပ်စဲရမည်။

၂၃။ အစုရှယ်ယာတစ်စုကို ဖော်ပြပါနေ့ရက်တွင် ကုမ္ပဏီကသိမ်းယူပြီးဖြစ်ကြောင်း စာဖြင့်ရေးသားထုတ်ပြန်ကြေငြာချက်ကို ကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးက ထုတ်ပြန်ကြောင်းစိစစ်အတည်ပြုခြင်းသည် အစုရှယ်ယာပိုင်ခွင့်ရှိ ကြောင်း တောင်းဆိုလာသူအားလုံးအပေါ်တွင် ဆန့်ကျင်သောအပြီးသတ် သက်သေခံချက်ဖြစ်စေရမည်။ အဆိုပါအစုရှယ်ယာကို သိမ်းယူကြောင်းကြေငြာချက်သည်လည်းကောင်း၊ ရောင်းချခြင်းသို့မဟုတ် စီမံခန့်ခွဲပေးခြင်းတို့အတွက် အကယ်၍ အဖိုးစားနားရရှိခဲ့လျှင် ကုမ္ပဏီကထုတ်ပေးထားသောဖြတ်ပိုင်းသည်လည်းကောင်း၊ အစုရှယ်ယာပိုင်ဆိုင်ခြင်းအတွက် တရားဝင်သော အထောက်အထားများဖြစ်စေပြီး ထိုသို့ဝယ်ယူ သို့မဟုတ် စီမံခန့်ခွဲခြင်းဖြင့်ရယူသူကို အဆိုပါ အစုရှယ်ယာပိုင်ဆိုင်သူအဖြစ် မှတ်ပုံတင်ပေးရမည်။ဝယ်ယူရန်ငွေ (ရှိလျှင်) ကိုမည်ကဲ့သို့သုံးစွဲခဲ့ခြင်းအပြင်အစုရှယ်ယာကို သိမ်းယူရာတွင်ဆောင်ရွက်မှုများသည်လည်းကောင်း၊

ရောင်းချသို့မဟုတ်စီမံခန့်ခွဲရာတွင်လည်းကောင်းနည်းလမ်းမကျခြင်းနှင့်လုပ်နည်းနှင့်လုပ်ဟန်တရားမဝင်ခြင်းတို့သည် အဆိုပါအစုရှယ်ယာပိုင်ဆိုင်လာသူ၏ ပိုင်ဆိုင်ခွင့်ကိုထိခိုက်ခြင်းမရှိစေရ။

၃၄။ အဆိုပါအစုရှယ်ယာ သိမ်းယူခြင်းဆိုင်ရာစည်းမျဉ်းများပါ သတ်မှတ်ချက်များသည် အစုရှယ်ယာတစ်စုကိုထုတ်ပေးစဉ်ကတည်းကသတ်မှတ်ထားချက်များအရ ရှယ်ယာ၏ပမာဏပေါ်မူတည်၍ဖြစ်စေ၊ ပရီမီယံကြေးပေးချေသည့်နည်းလမ်းအားဖြင့်ဖြစ်စေ၊ ပေးချေရန်သတ်မှတ်ချိန်ရောက်ရှိလာပြီးဖြစ်သော်လည်း မည်သည့်ငွေကြေးမျှ မပေးချေရသေးသည့် အစုရှယ်ယာများကိစ္စရပ်တွင်ပေးချေရန်နို့တစ်စာဖြင့် နည်းလမ်းတကျတောင်းခေါ်မှုတစ်ရပ်ပြုပြီးသကဲ့သို့ အကျိုးသက်ရောက်စေရမည်။

## အစုရှယ်ယာများကိုစတော့ (ရင်းနှီးပစ္စည်း) အဖြစ်ပြောင်းလဲခြင်း

၃၅။ ဤကုမ္ပဏီ၏ ကြိုတင်ပြုလုပ်သော အထွေထွေအစည်းအဝေးမှခွင့်ပြုချက်ဖြင့် ဒါရိုက်တာများသည်အပြည့် ပေးအပ်ပြီးသည့်အစုရှယ်ယာများကိုစတော့ (ရင်းနှီးပစ္စည်း) အဖြစ်ပြောင်းလဲခွင့်ရှိသည်။ ထို့ပြင်ဒါရိုက်တာများသည် ထိုသို့သောရရှိသည့်ခွင့်ပြုချက်ဖြင့်မည်သည့်စတော့ကိုမဆိုအပြည့်ပေးအပ်ပြီးသည့် ရှယ်ယာအဖြစ် ပြန်လည်ပြောင်းလဲနိုင်သည်။

၃၆။ စတော့လက်ကိုင်ပိုင်ဆိုင်သူတို့သည် ၄င်းတို့၏စတော့ သို့မဟုတ် စတော့၏တစ်စိတ်တစ်ဒေသကို တတ်နိုင်သရွေ့ အခြေအနေပေးသမျှယင်းစတော့များကို ရှယ်ယာစတော့အဖြစ်မပေါ်ထွက်လာမီက ပြောင်းလွှဲရမည့်စည်းမျဉ်းများအရနှင့်အလားတူနည်းအတိုင်းပြောင်းလွှဲနိုင်သည်။သို့သော်ဒါရိုက်တာများသည်အခါအားလျော်စွာ ထိုသို့ပြောင်းလွှဲစတော့ပမာဏအနည်းဆုံးမည်ရွေ့ဖြစ်ရမည်ဟုသတ်မှတ်နိုင်သည်။ ထိုသို့သတ်မှတ်သည့် အနည်းဆုံး၏ တစ်စိတ်တစ်ဒေသပြောင်းလွှဲမှုကိုလည်း သတ်မှတ်နိုင်သည် သို့မဟုတ် ပိတ်ပင်နိုင်သည်။ သို့သော်ထိုအနည်းဆုံးသတ်မှတ်ချက်သည် စတော့ ပေါ်ထွက်လာသည့်ရှယ်ယာများ၏ သာမန်ပမာဏတန်ဖိုး ထက်မပိုစေရ။

၃၇။ စတော့ပိုင်ဆိုင်လက်ကိုင်ရှိသူများသည်ကုမ္ပဏီ၏အစည်းအဝေးနှင့် အခြားကိစ္စရပ်များတွင်၄င်းတို့၏စတော့ပေါ်ပေါက်လာသည့် အစုရှယ်ယာများ ကိုင်ဆောင်ထားဘိသကဲ့သို့ယင်းအစုရှယ်ယာပမာဏအတိုင်းအမြတ်ဝေစု အခွင့်အရေး၊မဲပေးခြင်းအခွင့်အရေး၊ ပိုင်ရေးပိုင်ခွင့်အထူးခွင့်နှင့် အကျိုးခံစားခွင့် ညီတူရရှိစေရမည်။ သို့ရာတွင် (ကုမ္ပဏီ၏အမြတ်ဝေစုနှင့်အကျိုးအမြတ်တွင်ပါဝင်ရရှိခြင်းမှအပ) ယင်းစတော့၏စားကိန်အရ အကြွင်းမရှိသည့် အပိုင်းနှင့်ပတ်သက်၍မူရင်းစတော့ပေါ်ထွက်လာသည့် အစုရှယ်ယာများအပေါ်ပိုင်ရေးပိုင်ခွင့် အထူးအခွင့်အကျိုးအမြတ်ရရှိထားမှသာလျှင် ယင်းစတော့များအပေါ် ပိုင်ရေးပိုင်ခွင့်အထူးအခွင့်နှင့် အကျိုးခံစားခွင့် ရရှိနိုင်သည်။

၃၈။ ပေးဆပ်ပြီးသည့်ရှယ်ယာ(အစု)များနှင့် (ရှယ်ယာဝရမ်းများနှင့် သက်ဆိုင်သည့်ကိစ္စရပ်များမှအပ)ကုမ္ပဏီ၏ စည်းမျဉ်းများသည် စတော့များနှင့်လည်း သက်ဆိုင်ရမည်။အစု နှင့် အစုရှင်ဆိုသည့်စကားရပ်များတွင် စတော့နှင့်စတော့ လက်ကိုင်ပိုင်ဆိုင်သူစကားရပ်များ ပါဝင်သည်။

## အစုရှယ်ယာဝရမ်းများ

၃၉။ ဤကုမ္ပဏီသည် အစုရှယ်ယာဝရမ်းများ ထုတ်ပေးနိုင်သည်။ ဒါရိုက်တာလူကြီးများက အချိန်အားလျော်စွာ သတ်မှတ်ထားသည့်နည်းလမ်းအတိုင်းအပြည့်ပေးအပ်ပြီးသော အစုအတွက်အစုပိုင်ရှင်အဖြစ်မှတ်ပုံတင်ထားသူသည်စာဖြင့် ရေးသား ထားသည့် လက်မှတ်ရေးထိုးထားသော လျှောက်လွှာဖြင့် အစုဝရမ်းများကို ဒါရိုက်တာ များ၏သဘောအတိုင်း ထုတ်ပေးနိုင်သည်။ ယင်းကဲ့သို့ထုတ်ပေးရန် လျှောက်လွှာအပေါ် ထိုးထားသည့် လက်မှတ်မှန်ကန်ကြောင်း သက်သေအထောက်အထား (ရှိခဲ့သော်)ပါရှိရမည်။ အစုရှယ်ယာနှင့်ပတ်သက်၍ ယင်းအထောက်အထား လက်မှတ်(ရှိခဲ့သော်) ဝရမ်းအတွက်တံဆိပ်ခေါင်းဖိုးငွေနှင့် အခပါ ရရှိသည့်အခါ ဒါရိုက် တာများသည်ဝရမ်းကိုတံဆိပ်ခေါင်းကပ်၍ ကုမ္ပဏီ၏တံဆိပ်ဖြင့်ထုတ်ပေးနိုင်သည်။ ယင်းဝရမ်းတွင် ဝရမ်းလက်ရှိဖြစ်သူသည် ဝရမ်းတွင်ဖော်ပြထားသည့် အစုရှယ်ယာများရရှိခွင့်ရှိသူဖြစ်ကြောင်းနှင့် ယင်းဝရမ်းတွင် ဖော်ပြထားသည့် အစုများအပေါ်ပေးရန်ရှိသော အမြတ်ဝေစု

နှင့်အခြားငွေများရရှိခွင့်ရှိသူများဖြစ်ကြောင်းနှင့် ယင်းဝရမ်းတွင်ဖော်ပြထားသည့် အစုများအပေါ်ပေးရန်ရှိသောအမြတ်ဝေစုနှင့် အခြားငွေများရရှိခွင့်ရှိသူများ ဖြစ်ကြောင်းဖော်ပြ၍ ထိုကဲ့သို့ရရန်ဖြတ်ပိုင်း သို့မဟုတ် အခြားအထောက်အထားပေးအပ်ရမည်။

၀။ အစုရှယ်ယာဝရမ်းသည် ယင်းဝရမ်းတွင်ဖော်ပြထားသည့် အစုများကို ထိုအစုဝရမ်းလက်ကိုင်ရှိသူကပိုင်ခွင့် ရှိသည်။ အစုဝရမ်းကို လက်ရောက်ပေးအပ်ခြင်းဖြင့် လွှဲပြောင်းပေးခြင်းဖြစ်သည်။ အစုများနှင့်ပတ်သက်သည့် လွှဲပြောင်းခြင်းနှင့် ဆင်းသက်မှုတို့နှင့် ကုမ္ပဏီ၏စည်းမျဉ်းများသည် အစုဝရမ်းများနှင့် မသက်ဆိုင်စေရ။

၄၁။ ဒါရိုက်တာများက အချိန်အားလျော်စွာ သတ်မှတ်ထားသည့် ငွေကြေးမြှေးသွင်းပြီး၊ အစုရှယ်ယာ ဝရမ်းပိုင်ရှင်က ယင်းဝရမ်းကို ကုမ္ပဏီကပယ်ဖျက်ပေးရန် ပြန်သွင်းသည့်အခါ ၄င်း၏အမည်ကို အစုဝင်များ မှတ်ပုံတင် စာအုပ်တွင်ဝရမ်းတွင်ဖော်ပြထားသည့် အစုရှယ်ယာများအတိုင်း ပိုင်ဆိုင်သည့်အစုဝင်အဖြစ် ထည့်သွင်းပေးရန် တောင်းဆိုခွင့်ရှိသည်။

အစုရှယ်ယာဝရမ်းပိုင်ဆိုင်သူသည် အချိန်မရွေးဝရမ်းကို ကုမ္ပဏီ၏ရုံး၌ အပ်နှံနိုင်သည်။ ထိုသို့ဝရမ်းသည် အပ်နှံထားလျက်ရှိနေလျှင် အပ်နှံထားသူသည် ကုမ္ပဏီအစည်းအဝေးခေါ်ပေးရန် တောင်းဆိုချက်လက်မှတ်ရေးထိုးခွင့် တန်းတူရှိသည်။ အပ်နှံထားသည့်ဝရမ်းတွင်ပါရှိသည့် အစုရှယ်ယာများနှင့်အညီ ထိုသူသည် ဝရမ်း အပ်နှံပြီးနှစ်ရက်တိတိကုန်ဆုံးသည့်အချိန်မှစ၍ မည်သည့်အစည်းအဝေးသို့တက်ခွင့်၊ မဲပေးခွင့်နှင့်အခြား အဖွဲ့ဝင်များ ရရှိသည့်ပိုင်ခွင့်အထူးအခွင့်အရေးများ ကျင့်သုံးခွင့်ရှိသည်။ သူတစ်ဦးတစ်ယောက်ထက်ပို၍ အစုရှယ်ယာဝရမ်း အပ်နှံသူအဖြစ် အသိအမှတ်မပြု။ နှစ်ရက်ကြိုတင် နို့တစ်စာပေးပို့လျှင် ကုမ္ပဏီသည် အပ်နှံထားသော အစုရှယ်ယာဝရမ်းကို အပ်နှံသူအားပြန်ပေးရမည်။

၄၃။ နောက်တွင်အခြားနည်းအားဖြင့် အတိအကျဖော်ပြထားခြင်းမှတစ်ပါး အစုရှယ်ယာဝရမ်းပိုင်ရှင်မည်သူမဆို ကုမ္ပဏီအစည်းအဝေးခေါ်ပေးရန် လက်မှတ်ထိုး၍ တောင်းဆိုချက်ပြုခွင့်မရှိ သို့မဟုတ် ကုမ္ပဏီအစည်းအဝေး တက်ခွင့် သို့မဟုတ် မဲပေးခွင့် သို့မဟုတ် အစုဝင်၏အခြားပိုင်ရေးပိုင်ခွင့် အထူးအခွင့်မရှိ၊ သို့မဟုတ် ကုမ္ပဏီထံ မှအကြောင်းကြားစာများ ရရှိခွင့်မရှိ၊ သို့ရာတွင် ဝရမ်း၌ဖော်ပြထားသည့် အစုရှယ်ယာပိုင်ဆိုင်သူအနေနှင့် မှတ်ပုံတင်စာအုပ်၌ဖော်ပြထားသည့်အစုဝင်တစ်ဦး ရရှိသည့်ပိုင်ရေးပိုင်ခွင့်အထူးအခွင့်များနှင့် အကျိုးခံစားခွင့်များကိုအစုရှယ်ယာ ဝရမ်းပိုင်ဆိုင်သူက ရရှိစေရမည်။ သူသည် "ကုမ္ပဏီ"၏အစုဝင်ဖြစ်သည်။

၄၄။ အစုရှယ်ယာဝရမ်းများ ပျက်ပြယ်လျှင်၊ ဆုံးရှုံးလျှင် သို့မဟုတ် ပျက်စီးသွားလျှင် ပြန်လည်လဲလှယ်သည့်အနေနှင့် အစုရှယ်ယာဝရမ်း အသစ်လက်မှတ်ဖြတ်ပိုင်း ထုတ်ပေးရန်အတွက် ဒါရိုက်တာလူကြီးများသည် အခါအားလျော် စွာ သတ်မှတ်ချက်များအတွက်နည်းဥပဒေများ ပြုလုပ်နိုင်သည်။ (၄င်းတို့လိုအပ်သည်ထင်မှတ်လျှင်)

### မတည်ငွေရင်းနှင့်အစုရှယ်ယာများ

၄၅။ ကုမ္ပဏီ၏ခွင့်ပြုပြီးမတည်ငွေရင်းမှာ ကျပ် ကျပ် ၅၀,၀၀၀,၀၀၀,၀၀၀/– (ကျပ် သန်းပေါင်းငါးသောင်း တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀/–(ကျပ်တစ်သိန်းတိတိ) တန် အစုရှယ်ယာပေါင်း (၅၀၀,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသောတရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

